ဦ302 ၄-၄၁၉.
၁၄၁ ၁၆/၁

အထွေထွေ အရပ်ရပ် – ၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

အကြောင်းအရာ။ ။မြန်မာ့အားမာန်ငါး ၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်တည်ထောင်၍ပုစွန်အစား အစာထုတ်လုပ်ခြင်း နှင့်ပုစွန်မွေးမြူရေး ကန်တည်ဆောက်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အသိ ပြုကြောင်းပြုခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာ့အားမာန်ငါး ၊ ပုစွန်အစာထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်( Myanma Arr Marn Fish-Shrimp Feed Production Co,Ltd) တည်ထောင်၍မြို့ရွာနှင့်အိုး အိမ်ဖွံ့ဖြိုးရေးဦးစီး ဌာနထံမှ ဒါရိုက်တာအဖွဲ့ဝင်ဦး ဇော်ထွန်း အမည်ဖြင့်အသုံးပြုခွင့်ရရှိထား သောရန်ကုန်တိုင်း ၊ စက်မှုမြို့နယ်၊ ဒဂုံမြို့သစ်အရှေ့ပိုင်း ၊ မြေကွက်အမှတ်(၉၆) ရှိမြေ( ၂.၄၉၂ ) ဧက( ၁၀၀၀၈၄.၇၇ စတုရန်းမီတာ ) နှင့်ရန်ကုန်တိုင်း အေးချမ်းသာယာရေး နှင့်ဖွံ့ဖြိုးရေးကောင်စီမှ ရွှေရေကုမ္ပဏီလီမိတက် အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော ကျောက်တန်းမြို့နယ်၊ ချောင်းဝကျေးရွာ ရှိ လန( ၃၉ ) မြေ( ၂၀၃ ) ဧက( ၈၂၁၅၁၂.၅၈ စတုရန်းမီတာ )တို့တွင် ပုစွန်အစား အစာထုတ်လုပ်ခြင်း နှင့်ပုစွန်မွေးမြူရေး ကန်တည်ဆောက်ခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အသိပြုကြောင်းပြုချက်အား ( ၂၀-၁၁-၂၀၀၂ ) နေ့တွင်ကျင်းပ ပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၃၀/၂၀၀၂ )ကြိမ် မြောက်အစည်းအဝေး သို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး( ၁၂-၁၂-၂၀၀၂) နေ့တွင်ကျင်းပသောကုန်သွယ်မှုမူဝါဒကောင်စီ၏( ၃၁/၂၀၀၂ )ကြိမ်မြောက် အစည်းအဝေး သို့ဆက်လက်တင်ပြခဲ့ပါသည်။အဆိုပါအစည်းအဝေး မှသဘောတူညီ ချက်အရအစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ( ၂-၁-၂၀၀၃ ) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ ( ၁/၂၀၀၃ )ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ရာယင်းအစည်း အဝေး မှသဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၂၉/ ၂၀၀၂ ( ၃၉ ၄ ၂-က )
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဒီဇင်ဘာလ ၂ ၄ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် တည်ထောင်၍ ပုစွန် အစာအစာ ထုတ်လုပ်ခြင်းနှင့် ပုစွန်မွေးမြူရေးကန် တည်ထောင်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေစေရာ ကုမ္ပဏီ လီမိတက်နှင့် ဒေါက်တာဇော်ထွန်း၊ ဒေါ်ဌေးဌေးကြည်၊ ဒေါ်ရီရီသာ တို့မှ ဖက်စပ်လုပ်ငန်းအဖြစ် မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr Marn Fish-Shrimp Feed Production Co., Ltd.) တည်ထောင်၍ ပုစွန် အစာအစာ ထုတ်လုပ်ခြင်းနှင့် ပုစွန်မွေးမြူရေးကန် တည်ထောင်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၀-၁၁-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၈/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၁၂-၁၂-၂၀၀၂)နေ့တွင် ကျင်းပသည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃၁/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရ အဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၈၀၀၀)အပါအဝင် စုစုပေါင်း ကျပ် (၃၇၆.၆၃) သန်း ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်တွင်းရှိ ရွှေစေရာ ကုမ္ပဏီ လီမိတက်မှ ဝယ်ယူမည် ဖြစ် ကြောင်း၊ ပုစွန်အစာအစာ ထုတ်လုပ်ရန်အတွက် လိုအပ်သော ကုန်ကြမ်းများကို ကိုယ်ပိုင် နိုင်ငံခြားငွေ ဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ ပုစွန်အစာအစာ ထုတ်လုပ်မှုလုပ်ငန်းကို မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒေါက်တာ အဖွဲ့ဝင် ဦးဇော်ထွန်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၈၆)၊ ဒဂုံမြို့သစ်အရှေ့ပိုင်း၊ စက်မှုမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၂.၄၈၂) ဧက (၁၀၀၈၄.၇၇ စတုရန်းမီတာ) ပေါ်တွင် ဆောင်ရွက်မည် ဖြစ်ပါသည်။ ပုစွန်မွေးမြူရေးလုပ်ငန်းကို ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ ရွှေစေရာ ကုမ္ပဏီ လီမိတက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ကျောက်တန်းမြို့နယ်၊ ချောင်းဝကျေးရွာရှိ

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-...၁၇၄.../၂၀၀၃။ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီ လ ၁၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ...ဦးအောင်ဇော်...

(ခ) အဘအမည် ...ဦးစိန်ဝင်း...

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ...၁၂/မဂတ(နိုင်)၀၀၆၃၄၈...

(ဃ) နေရပ်လိပ်စာ ...အမှတ်(၇)၊ ဒုတိယထပ်၊ ရွှေမာလာဗိုလ်မှူး၊ ဘရင့်နောင်လမ်းမကြီး၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။...

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...မြန်မာ့အားမာန်ငါး ပုစွန်၊ အစာထုတ်လုပ်ရေးကုမ္ပဏီလီမိတက် (Myanma Arr Marn Fish-Shrimp Feed Production Co, Ltd.)...

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...ပုစွန်အစာ အစာထုတ်လုပ်ခြင်း နှင့် ပုစွန်မွေးမြူရေး ကန်တည်ဆောက်ခြင်း လုပ်ငန်း။...

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ...ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း) စက်မှုမြို့နယ်၊ မြေကွက်အမှတ်(၉၆) (ပုစွန်အစာအစာစက်ရုံ) ရန်ကုန်တိုင်း ကျောက်တန်းမြို့နယ်၊ ချောင်းဝကျေးရွာ (ပုစွန်မွေးမြူရေးကန်)...

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ...(၃၇၆.၆၃) သန်း (ကျပ်သုံးရာခုနစ်ဆယ့်ခြောက်သန်း ခြောက်သိန်းသုံးသောင်း ခန့်)...

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၁၀ /၂၀၀၃ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၄ ခုနှစ်၊ ပြာသိုလဆန်း ၁၄ ရက်
(၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.) တည်ထောင်၍ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒါရိုက်တာအဖွဲ့ဝင် ဦးဇော်ထွန်း အမည်ဖြင့် အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ စက်မှုမြို့နယ်၊ ဒဂုံမြို့သစ် အရှေ့ပိုင်း၊ မြေကွက်အမှတ်(၉၆)ရှိ မြေ(၂.၄၉၂)ဧက (၁၀၀၈၄.၇၇ စတုရန်းမီတာ)နှင့် ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီမှ ရွှေဧရာ ကုမ္ပဏီ လီမိတက်အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ကျောက်တန်းမြို့နယ်၊ ချောင်းဝကျေးရွာရှိ လန(၃၉) မြေ(၂၀၃)ဧက (၈၂၁၅၁၂.၅၈ စတုရန်းမီတာ)တို့တွင် ပုစွန်အစားအစာ ထုတ်လုပ်ခြင်းနှင့် ပုစွန်မွေးမြူရေးကန် တည်ထောင်ခြင်းလုပ်ငန်းတို့ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၀-၁၁-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၈/၂၀၀၂)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှမူအားဖြင့် သဘောတူညီခဲ့ပြီး (၁၂-၁၂-၂၀၀၂) နေ့တွင် ကျင်းပသည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃၁/၂၀၀၂) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့် အညီ(၂-၁-၂၀၀၃)နေ့တွင် ကျင်းပသည့် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏(၁/၂၀၀၃) အစည်းအဝေး သို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.) အား ပုစွန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ပုစွန် မွေးမြူရေးကန် တည်ထောင်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၅၇၄/၂၀၀၃ ကို ထုတ်ပေးလိုက်သည်။

၂။ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ လုပ်ငန်းစတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ)အရ အဆိုပြု လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်(၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေ ကိုဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထား ရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကို သတ်မှတ် သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ် ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃ (ဈ) အရ ပြည်ပမှ တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် လုပ်ငန်းသုံး ပစ္စည်းများအတွက် အဆိုပြုချက်ပါအတိုင်း ရင်းနှီးမြှုပ်နှံသူ၏ **ကိုယ်ပိုင်နိုင်ငံခြားငွေဖြင့် L/C ဖွင့်လှစ် ဝယ်ယူတင်သွင်းရမည်ဖြစ်ပြီး နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း** (Source of Payments for Import) ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည် တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထား သည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.) ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နှင့်အညီ မှတ်ပုံတင်နိုင်ရန်အတွက် ကုမ္ပဏီများ ညွှန်ကြားမှုဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့လျှောက်ထားရမည်။ ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ စာရွက်စာတမ်း (၅) စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြ ရမည်။

(က) ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများ ညွှန်ကြားမှု ဌာနက အတည်ပြုပြီးဖြစ်သည့် မြန်မာ–အင်္ဂလိပ် နှစ်ဘာသာဖြင့် ပြုစုထားသော ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ (Memorandum and Articles of Association)

၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤ ကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၁၀။ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ **ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊** မဖြစ်ပေါ်စေရန်**အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို** ဝန်ခံဂတိ ပြုထားသည့်**အတိုင်း စနစ်တကျထားရှိ** ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံ တင်ပြရမည်။ ပတ်ဝန်းကျင် ညစ်ညမ်းမှုများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင်မှ ကန့်ကွက်လာပါက စက်ရုံပိတ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၁။ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာလများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၁၂။ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.) သည် အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ကို တစ်လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၄။ မြန်မာ့အားမာန် ငါး၊ ပုဇွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူ ခြင်းခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

( ဦးသောင်း )

ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၁/မ-၈၁၁/၂၀၀၂ (၄ ၂၇၀-ဃ )
ရက်စွဲ၊ ၂၀၀၃ ခုနှစ်၊ ဇန်နဝါရီလ ၁၆ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ကာကွယ်ရေး ဝန်ကြီးဌာန၊ တပ်မတော် ထောက်လှမ်းရေး ဌာနချုပ်ရုံး၊ (ပြည်တွင်း ထောက်လှမ်းရေးဌာန)။
၅။ ရန်ကုန်တိုင်း၊ အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၁၂။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၃။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၄။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၅။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။
၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၇။ ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့် ရေလုပ်ငန်း ညွှန်ကြားမှု ဦးစီးဌာန။
၂၈။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။
၂၉။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၃၀။ ဒါရိုက်တာ၊ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr marn Fish-Shrimp Feed Production Co., Ltd.)။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကာ-၁/မ-၁၃၂၉/ ၂၀၀၂ ( ၃၉ ၄ ၂-က )
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ ဒီဇင်ဘာလ ၂ ၄ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ သို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် တည်ထောင်၍ ပုစွန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ပုစွန်မွေးမြူရေးကန် တည်ထောင်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေရော ကုမ္ပဏီ လီမိတက်နှင့် ဒေါက်တာဇော်ထွန်း၊ ဒေါ်ဌေးဌေးကြည်၊ ဒေါ်ရီရီသာ တို့မှ ဖက်စပ်လုပ်ငန်းအဖြစ် မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr Marn Fish-Shrimp Feed Production Co., Ltd.) တည်ထောင်၍ ပုစွန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ပုစွန်မွေးမြူရေးကန် တည်ထောင်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၀-၁၁-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၈/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ (၁၂-၁၂-၂၀၀၂)နေ့တွင် ကျင်းပသည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၃၁/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့် သဘောတူပြီး အစိုးရ အဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၈၀၀၀)အပါအဝင် စုစုပေါင်း ကျပ် (၃၇၆.၆၃) သန်း ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်တွင်းရှိ ရွှေရော ကုမ္ပဏီ လီမိတက်မှ ဝယ်ယူမည် ဖြစ် ကြောင်း၊ ပုစွန်အစားအစာ ထုတ်လုပ်ရန်အတွက် လိုအပ်သော ကုန်ကြမ်းများကို ကိုယ်ပိုင် နိုင်ငံခြားငွေ ဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ ပုစွန်အစားအစာ ထုတ်လုပ်မှုလုပ်ငန်းကို မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒါရိုက်တာ အဖွဲ့ဝင် ဦးဇော်ထွန်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၈၆)၊ ဒဂုံမြို့သစ်အရှေ့ပိုင်း၊ စက်မှုမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၂.၄၈၂) ဧက (၁၀၀၈၄.၇၇ စတုရန်းမီတာ) ပေါ်တွင် ဆောင်ရွက်မည် ဖြစ်ပါသည်။ ပုစွန်မွေးမြူရေးလုပ်ငန်းကို ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ ရွှေရော ကုမ္ပဏီ လီမိတက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ကျောက်တန်းမြို့နယ်၊ ချောင်းဝကျေးရွာရှိ

<u>လျှို့ဝှက်</u>

## ပြည်ထောင်စု မြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/မ-၁၃၂၉/ ၂၀၀၂ (၃၅၆၆-က)။
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ နိုဝင်ဘာလ ၂၆ ရက်။

<u>ကုန်သွယ်မှု မူဝါဒ ကောင်စီ သို့ တင်ပြသည့်</u>

<u>အမှာစာ</u>

အကြောင်းအရာ။ <u>မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် တည်ထောင်၍ ပုစွန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ပုစွန်မွေးမြူရေးကန် တည်ထောင်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေရော ကုမ္ပဏီ လီမိတက်နှင့် ဒေါက်တာဇော်ထွန်း၊ ဒေါ်ဌေးဌေးကြည်၊ ဒေါ်ရီရီသာ တို့မှ ဖက်စပ်လုပ်ငန်းအဖြစ် မြန်မာ့အားမာန် ငါး ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီ လီမိတက် (Myanma Arr Marn Fish-Shrimp Feed Production Co., Ltd.) တည်ထောင်၍ ပုစွန် အစားအစာ ထုတ်လုပ်ခြင်းနှင့် ပုစွန်မွေးမြူရေးကန် တည်ထောင်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၀-၁၁-၂၀၀၂) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၈/၂၀၀၂) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်ကို <u>နောက်ဆက်တွဲ(၁)</u> အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၉၀၀၀)အပါအဝင် စုစုပေါင်း ကျပ် (၃၇၆.၆၃) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၅.၀၅)သန်း {အမေရိကန်ဒေါ်လာ (၉၀၀၀) အပါအဝင်}၊ အဆောက်အဦ တန်ဖိုး ကျပ် (၁၄၀.၅၀)သန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ ကျပ် (၅.၀၀)သန်း၊ ကုန်ကြမ်း တန်ဖိုး ကျပ် (၃၆.၀၀)သန်း၊ စက်ပစ္စည်း တန်ဖိုး ကျပ် (၁၉၀.၀၈)သန်း ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းများကို ပြည်တွင်းရှိ ရွှေရော ကုမ္ပဏီ လီမိတက်မှ ဝယ်ယူမည် ဖြစ်ကြောင်း၊ ပုစွန်အစားအစာ ထုတ်လုပ်ရန်အတွက် လိုအပ်သော ကုန်ကြမ်းများကို ကိုယ်ပိုင် နိုင်ငံခြားငွေ ဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ ပုစွန်အစားအစာ ထုတ်လုပ်မှုလုပ်ငန်းကို မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနထံမှ ဒါရိုက်တာအဖွဲ့ဝင် ဦးဇော်ထွန်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ် (၉၆)၊ ဒဂုံမြို့သစ်အရှေ့ပိုင်း၊ စက်မှုမြို့နယ်၊ ရန်ကုန်တိုင်းရှိ မြေ (၂.၄၉၂) ဧက (၁၀၀၈၄.၇၇ စတုရန်းမီတာ)ပေါ်တွင် ဆောင်ရွက်မည် ဖြစ်ပါသည်။ ပုစွန်မွေးမြူရေးလုပ်ငန်းကို ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ ရွှေရော ကုမ္ပဏီ လီမိတက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ကျောက်တန်းမြို့နယ်၊ ချောင်းဝကျေးရွာရှိ

<u>လျှို့ဝှက်</u>

အတွေ့တွေ့ အရပ်ရပ် – ၁၆

(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်)

အကြောင်းအရာ။ ။<u>မြန်မာ့အားမာန်ငါး၊ ပုဇွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်တည်ထောင်၍ ပုဇွန်အစာ အစာထုတ်လုပ်ခြင်းနှင့်ပုဇွန်မွေးမြူရေး ကန်တည်ထောင်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆို ပြုကြင်ပြုခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်မာ့အားမာန်ငါး၊ ပုဇွန် အစာထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် ( Myanma Arr Marn Fish-Shrimp Feed Production Co,Ltd) တည်ထောင်၍မြို့ဌာနနှင့်အုံး ဆိပ်ဖွံ့ဖြိုးရေးဦးစီး ဌာနထံမှ ဒါရိုက်တာအဖွဲ့ဝင်ဦး ဇော်ထွန်း အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော ရန်ကုန်တိုင်း၊ စက်မှုမြို့နယ်၊ ဒဂုံမြို့သစ်အရှေ့ပိုင်း၊ မြေတွက်အမှတ်(၉၆) ရှိ မြေ(၂.၄၉၂) ဧက(၁၀၀၀၀၄.၇၇၈ တုရန်းမီတာ) နှင့် ရန်ကုန်တိုင်း အေးချမ်းသာယာရေး နှင့်ဖွံ့ဖြိုးရေး ကောင်စီမှ ငွေဧရာကုမ္ပဏီလီမိတက် အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော ကျောက်တန်းမြို့နယ်၊ ချောင်းဝကျေးရွာ ရှိ လန(၃၉) မြေ(၂၀၁) ဧက(၈၂၁၁၀၂.၅၀ တုရန်းမီတာ)တို့တွင် ပုဇွန်အစာ အစာထုတ်လုပ်ခြင်း နှင့်ပုဇွန်မွေးမြူရေး ကန်တည်ထောင်ခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုကြင်ပြုချက်အား (၂၀-၁၁-၂၀၀၂) နေ့တွင်ကျင်းပ ပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၃၀/၂၀၀၂)ကြိမ် မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး (၁၂-၁၂-၂၀၀၂) နေ့တွင်ကျင်းပ သောကုန်သွယ်မှုမူဝါဒကောင်စီ၏(၃၁/၂၀၀၂)ကြိမ်မြောက် အစည်းအဝေးသို့ဆက်လက်တင်ပြခဲ့ပါသည်။အဆိုပါအစည်းအဝေးမှ သဘောတူညီချက်အရအစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၂-၁-၂၀၀၃) နေ့တွင်ကျင်းပ ပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံ အစိုးရအဖွဲ့၏ ( ၁/၂၀၀၃)ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်း အဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

လန်(၃၉) မြေ(၂၀၃)ကော၊ (၈၂၁၅၁၂.၅၈ စတုရန်းမီတာ)ပေါ်တွင် ဆောင်ရွက်မည်ဖြစ်ပါသည်။ ယင်းသို့ ဆောင်ရွက်ခြင်းကို ရွှေဇရာ ကုမ္ပဏီ လီမိတက်၏ ဒါရိုက်တာအဖွဲ့မှ သဘောတူကြောင်း တင်ပြထားပါသည်။

၄။ ထွက်ရှိသော ပုစွန်များကို ပြည်ပသို့ (၁၀၀) ရာခိုင်နှုန်း နှင့် ပုစွန်အစာအစာများကို ပြည်တွင်းတွင် (၁၀၀)ရာခိုင်နှုန်း ရောင်းချသွားမည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (မက်ထရစ်တန်) | ပြည်ပရောင်း (US$/MT) | ပြည်တွင်းရောင်း (ကျပ်/မက်ထရစ်တန်) |
|---|---|---|---|---|
| ၁။ | ပုစွန် | ၂၆၄ | ၄၀၀၀ | – |
| ၂။ | ပုစွန်အစာအစာ | ၃၉၆၀ | – | ၃၂၀၀၀၀ |

၅။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၂၆၇.၂၀ | ၆.၃၄ | ၁၂၇၃.၅၄ |
| (ခ) | အသုံးစရိတ် | ၁၂၁၆.၁၀ | ၃.၂၂ | ၁၂၁၉.၃၂ |
| (ဂ) | အသားတင်အမြတ် | ၅၁.၁၀ | ၃.၁၂ | ၅၄.၂၂ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | | |
|---|---|---|---|
| (က) ဝင်ငွေခွန် | အမေရိကန်ဒေါ်လာ | ၀.၁၉ သန်း |
| | ကျပ် | ၂၁.၉၀ သန်း |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | အမေရိကန်ဒေါ်လာ | ၀.၁၁ သန်း |
| | ကျပ် | ၆၀.၃၄ သန်း |

၇။ လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း(၁၂၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၈။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာနသို့ သဘောတား တောင်းခံရာ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ အဆိုပြု လုပ်ငန်းအား လျှပ်စစ်ဓါတ်အား ဆက်သွယ်ပေးနိုင်ကြောင်း ပြန်ကြားလာပါသည်။

၉။ ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီသို့ သဘောတားတောင်းခံရာ ရွှေဇရာ ကုမ္ပဏီ လီမိတက်အား လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေ ပုဒ်မ–၃၉ ခွင့်ပြုပေးခဲ့ပြီး ဖြစ်သဖြင့် ဖော်ပြပါနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်တော်ပါကြောင်းနှင့် လုပ်ငန်းလုပ်ကိုင်လျက်ရှိနေပါကြောင်း ပြန်ကြားလာပါသည်။

၃၈/၀၂ MIC
၂၀.၁၁.၂၀၀၂

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အကြောင်းအချက်များ
( မြန်မာနိုင်ငံသား များ ရင်း နှီး မြှုပ်နှံမှုဥပဒေအရ )

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | မြန်မာ့အားမာန်ငါး ၊ ပုစွန်အစာထုတ်လုပ်ရေး ကုမ္ပဏီလီမိတက် (Myanma:Arr Marn Fish - Shrimp Feed Production) |
| ၂။ | လုပ်ငန်း အဆိုပြုသူအမည် | ဦးအောင်ဇော် |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုး အစား | ပုစွန်အစားအစာထုတ်လုပ်ခြင်း နှင့်ပုစွန်မွေး မြူရေး ကန်တည် ဆောက်ခြင်း လုပ်ငန်း ။ |
| ၄။ | တည်နေရာ | (၁) မြေကွက်အမှတ် (၄၆)၊ ဒဂုံမြို့သစ်အရှေ့ပိုင်း စက်မှုမြို့နယ်၊ ရန်ကုန်တိုင်း ။ (ပုစွန်အစားအစာစက်ရုံ)<br>(၂) ချောင်းဝ ကျေးရွာ၊ ကျောက်တန်း မြို့နယ်ရန်ကုန်တိုင်း (ပုစွန် မွေးမြူရေး ကန်) |
| ၅။ | စုစုပေါင်း ရင်း နှီး မြှုပ်နှံမှု | ကျပ် ၃၇၆၆၃၄သန်း (US$ ဒေါ်လာပေါင်း ၄.၀၈ အပါအဝင် ) |
| | - ငွေပမာဏ | ကျပ် ၅၀၅၄သန်း (US$ ဒေါ်လာပေါင်း ၄.၀၀ အပါအဝင် ) |
| | - စက်ပစ္စည်း ကိရိယာများ | ကျပ် ၁၉၀.၀၀၀သန်း |
| | - အဆောက်အဦ | ကျပ် ၁၄၀၅၀ သန်း |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၅၀၀ သန်း |
| | - ကုန်ကြမ်း ပစ္စည်း တန်ဖိုး | ကျပ် ၃၆.၀၀၀ သန်း |
| ၆။ | မြေအကြောင်းအရာ | |
| | - ပုစွန်အစားအစာစက်ရုံအတွက် | ၂.၄၉၂ဧက ( ၁၀၀၀၄.၇၇၈ တုရန်းမီတာ ) |
| | - မြေပိုင်ဆိုင်မှု | - မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေး ဦး စီး ဌာနထံမှ ဒါရိုက်တာတစ်ဦး ဖြစ်သူဦး ဇော်တွန်း အမည်ဖြင့်အသုံး ပြုခွင့်ရရှိထား သော မြေ |
| | - မြေအမျိုး အစား | - စက်မှုမြေ |

ကျ.၄က်

| | |
|---|---|
| - ပုစွန် မွေးမြူရေး ကန်အတွက် | ၂၀၃ ဧက(၈၂၁၅၁၂.၅၀၈တုရန်းမီတာ) |
| - မြေပိုင်ဆိုင်မှု | ရန်ကုန်တိုင်း အေး ချမ်း သာယာရေး နှင့်ဖွံ့ဖြိုးရေး ကောင်စီမှ ရွှေရေ ကုမ္ပဏီအမည်ဖြင့်အသုံးပြုခွင့်ရရှိထား သော မြေ။ |
| | - ကျောက်တန်း မြို့နယ် ချောင်း ဝ ကျေး ရွာ ၌ လ န/ ၃၉ မြေ ( ၂၀၃ ) ဧက ပေါ်တွင် ပုစွန် မွေးမြူရေး ကန်များ ကိုမြန်မာ ၃အား မ ာန်ငါး ၊ ပုစွန် အစာထုတ်လုပ် ရေး ကုမ္ပဏီ လီမိတက်မှအသုံး ပြုရန် ဒါရိုက်တာအဖွဲ့ဝင်များ အား လုံး ကသ ဘော တူ ကြောင်း ၊ ရွှေရေကုမ္ပဏီ လီမိတက်၏အစည်း အဝေး ဆုံး ဖြတ် ချက်ကိုတင်ပြထား ပါသည်။ ရွှေရေ ကုမ္ပဏီလီမိတက်၏ ကိုယ်စား ပြုသူဦး အောင် ဇော် သည်မြန်မာ ၃အား မ ာန်ငါး၊ ပုစွန်အစာထုတ်လုပ် ရေး ကုမ္ပဏီလီမိတက်၏ ဒါရိုက်တာတစ်ဦး ဖြစ်ပါသည်။ |
| ၄။ - မြေအမျိုး အစား | လ န ( ၃၉ ) မြေ |
| ၅။ ထုတ်လုပ်မှု( ပုံမှန်နှစ် ) | <u>မက်ထရစ်တန်</u> |
| - Shrimp Feed | ၃.၉၆ သန်း |
| - Prawns | ၂၆၄ |
| ၆။ ရောင်း ချမည့်နည်း စနစ် | |
| - Shrimp Feed (ပြည်တွင်း ) | ၁၀၀ % |
| - Prawns ( ပြည်ပ) | ၁၀၀ % |
| ၇။ ရောင်း ဈေး နှုန်း ( ပုံမှန်နှစ် ) | <u>ပြည်ပ ရောင်း</u> (US $/M T) — <u>ပြည်တွင်းရောင်း</u> ( ကျပ် / မက်ထရစ်တန်) |
| ၈။ - Prawns | ၄၀၀၀ — - |
| - Shrimp Feed | - — ၃၂၀ |

| | | |
|---|---|---|
| ၁၀။ | ဝင်ငွေ (ပုံမှန်နှစ်) | |
| | - နိုင်ငံခြား ငွေဖြင့် | US $ ၁၈၆ သန်း |
| | - ကျပ် ငွေဖြင့် | ကျပ် ၁၂၆၇.၂၀ သန်း |
| ၁၁။ | အသားတင်အမြတ် (ပုံမှန်နှစ်) | |
| | - နိုင်ငံခြား ငွေဖြင့် | US $ ၀.၅၂ သန်း |
| | - ကျပ် ငွေဖြင့် | ကျပ် ၅၁.၁၀ သန်း |
| ၁၂။ | အရင်း ကြေကာလ | (၃) နှစ်နှင့် (၇) လ |
| ၁၃။ | အရင်း အနှီးအပေါ်အကျိုး အမြတ်ပြန် ပြေပါနှုန်း (I R R) | (၂၃) ရာခိုင်နှုန်း |
| ၁၄။ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် | |
| | - ဝင်ငွေခွန် (နိုင်ငံခြား ငွေဖြင့်) | US $ ၀.၀၉ သန်း |
| | (ကျပ် ငွေဖြင့်) | ကျပ် ၂၁.၆၀ သန်း |
| ၁၅။ | ကုန်သွယ်လုပ်ငန်း ခွန် | |
| | - (ပြည်ပ ရောင်းရငွေ ပေါ် ၁၀%) | US $ ၀.၁၁ သန်း |
| | - (ပြည်တွင်းရောင်းရငွေ ပေါ် ၅ %) | ကျပ် ၆၀.၃၄ သန်း |
| ၁၆။ | ဝန်ထမ်း အင်အား (ပြည်တွင်း) | (၁၂၀) ဦး |
| ၁၇။ | တည် ဆောက်မှုကာလ | (၁) နှစ် |
| ၁၈။ | အခြား | - စက်ပစ္စည်း ကိရိယာများ ကိုပြည်တွင်း ၌ ငွေချေ ရာတွင် မှုတ်လီမိတက်မှ ဝယ်ယူ၍ လုပ်ကိုင်မည် ဖြစ်ကြောင်း၊ ပုစွန်အစာ အစာတုတ်လုပ်ရန်အတွက်ဆိုအပ် သော ကုန်ကြမ်း များ ကိုကိုယ်ပိုင် နိုင်ငံခြား ငွေဖြင့်ဝယ်ယူမည်ဖြစ် ကြောင်း တင်ပြထား ပါသည်။<br>- စက်ပစ္စည်း စာရင်း ကိုပူး တွဲတင်ပြထား ပါသည်။ |

**-ကတိဝန်ခံချက်များ** ( အောက်ပါအတိုင်း ပေးထားပါသည်။ )

- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများ အာလျင်ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း ၊
- မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်း သတ်မှတ်ချက်များ ကိုလိုက်နာမည်ဖြစ်ကြောင်း ၊
- မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း ၊
- ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ကြောင်း ၊
- ကုန်ချောပစ္စည်းများကိုပြည်ပတင်ပို့ရောင်းချရန်ဈေးကွက်ရှိပြီး ဖြစ်ကြောင်း ၊
- ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရပြည်နယ်/တိုင်း ဒေသန္တရစက်မှုကြီးကြပ်ရေးနှင့်လုပ်ငန်းစစ်ဆေးမှုညွှန်ကြားရေးမှူးဦးစီးဌာနတွင်မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ၊
- လုပ်ငန်းအသစ်ဖြစ်ကြောင်း ၊
- ယင်းလုပ်ငန်း၏ငွေကြေးအထောက်အထားအဖြစ် ဒေါက်တာဝေဝေလွန်း ၊ ဒေါက်တာငွေးငွေးကြည်တို့၏အာရှနေဘဏ်၌(၈-၇-၂၀၀၂)နေ့ ငွေလက်ကျန်မှာကျပ်(၁၆၇.၉၁)သိန်း ရှိကြောင်း ၊ ငွေဧရာကုမ္ပဏီလီမိတက်၏မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်၌ (၉-၉-၂၀၀၂)နေ့ဘဏ်လက်ကျန်မှာအမေရိကန်ဒေါ်လာ(၃၃၁၇၉၀.၀၃)ရှိကြောင်း ထင်ပြထားပါသည်။

- ဘဏ္ဍာရေး နှင့်အခွန်ဝန်ကြီး ဌာနမှမြန်မာ့ရင်း နှီး မြှုပ်နှံမှုနှင့်ကူး သန်း ရောင်း ဝယ် ရေး ဘဏ်တွင်ထား ရှိသော ငွေရေးကုမ္ပဏီလီမိတက် ၏ ငွေစာရင်း ရှိနိုင်ငံခြား ငွေများ သည် Export Earning - မှရရှိသော ငွေဖြစ်ကြောင်း နှင့်(၃၀-၉-၂၀၀၂) နေ့ရှိလက်ကျန်ငွေစုစုပေါင်း မှာအမေရိကန် ဒေါ်လာ (၃၂၆၅၉၅.၇၇) ဖြစ် ကြောင်း ပြန်ကြားလာပါသည်။ ( ပူး တွဲ )

- လျှပ်စစ်စွမ်း အား ဝန်ကြီး ဌာနသို့သတောင်းထား မှတ်ချက် တောင်း ခံခဲ့ရာမြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း မှအကိုပါလုပ်ငန်း သစ်အား ဓါတ်အား ဆက်သွယ် ပေး နိုင်ပါ ကြောင်း ပြန်ကြားလာပါသည်။ ( ပူး တွဲ )

- ရန်ကုန်တိုင်း အေး ချမ်း သာယာ ရေး နှင့် ဖွံ့ဖြိုး ရေး ကောင်စီသို့သတောင်းထား မှတ်ချက်တောင်း ခံရာ ငွေရေးကုမ္ပဏီလီမိတက်အား လယ်ယာမြေ နိုင်ငံပိုင်ပြုလုပ် ရေး ဆက်ဥပဒေ ပုဒ်မ ၃၉ ခွင့်ပြုပေး ခဲ့ပြီး ဖြစ်သဖြင့်အကိုပြုနေရာတွင်လုပ်ငန်း ဆောင်ရွက်ရန်သင့်တော်ပါကြောင်း နှင့်လုပ်ငန်း လုပ်ကိုင်လျှက်ရှိ နေပါကြောင်း အကြောင်း ပြန်ကြား လာပါသည်။ ( ပူး တွဲ )

- မွေး မြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီး ဌာနသို့သတောင်းထား မှတ်ချက် တောင်း ခံရာအကိုပြုတင်ပြသည့်ကုမ္ပဏီ၏ လက်ရှိတည် ဆောက်မည့် မြေ နေရာသည်ဒဂုံမြို့သစ်အ ရှေ့ပိုင်း မြို့နယ် ဝက်မှုနှုန်အကွင်း



စုကျော် ၅၁၁၂၀၀၂။

တည်ရှိပြီး ပတ်ဝန်း ကျင်တွင်ရှိစက်ရုံတစ်ခုသာရှိ၍
လုပ်ငန်း ဆောင်ရွက်ရန်သင့် လျော်သောလုပ်ငန်း
မြေဧရိယာလုံ လောက်မှုရှိသည့် နေရာဖြစ်ပါသည်။
စက်ရုံတည် ဆောက်မှုအ နေအထား မှာလည်းခေတ်မီ
ယန္တရား နှင့်နည်း ပညာများ ဖြင့် ဆောင်ရွက်
မည်ဖြစ်ပါသဖြင့်ပတ်ဝန်း ကျင်ထိခိုက်မည့်အ ခြေအနေ
မရှိ ကြောင်း ၊ မီး ဘေး အန္တရာယ်မဖြစ်ပွားစေ
ရေး အထွက်အဝင်အမ်းများ ချမှတ် ဆောင်ရွက်သွားမည်
ဖြစ် ကြောင်း ဝန်ခံကတိပြုထား ပါကြောင်း၊
ကျောက်တန်း မြို့နယ် ချောင်း ဝ ကျေး ရွာရှိပုစွန်
မွေး မြူရေး ကန်တည် ဆောက်ထား မှုမှာလည်း
ဂန်ကုန်မြစ်ကမ်း နဖူး တွင်ရှိခြင်း ၊ မြေဧရိယာ
လုံ လောက်မှုရှိခြင်း ၊ ဒီရေအတက် အကျမှာလည်း ရေ
ညစ်ညမ်း မှုမရှိရန်၊ ရေစီးရေလာ မြောင်းများ
အနည်ထိန်း ကန်များ ၊ ရေ လှောင်ကန်များ ဖြင့်
စနစ်တကျ ရေး ဆွဲထား ကြောင်းတွေ့ရှိရသဖြင့်၊
မြန်မာ့အား မာန်ငါး ၊ ပုစွန်အစာထုတ်လုပ်ရေး
ကုမ္ပဏီလီမိတက်၏ စက်ရုံတည် ဆောက်၍ ပုစွန်အစာ
အစာထုတ်လုပ်ခြင်း နှင့်ပုစွန် မွေး မြူရေး ကန်
တည် ဆောက်၍ ပုစွန် မွေး မြူခြင်း လုပ်ငန်း လုပ်
ကိုင်ရန်အတွက်ပြုချက်အ ပေါ် ကန့်ကွက် ရန်မရှိပါကြောင်း
နှင့်ခွင့်ပြု ဆောင်ရွက်စေသင့်ပါ ကြောင်းအကြောင်း
ပြန်ကြား လာပါသည်။ (ပူး တွဲ ၃)
- ဆောက်လုပ် ရေး ဝန်ကြီး ဌာနသို့သာ ထား
မှတ်ချက် တောင်း ခံရာအဆိုပြု မြေကွက်အမှတ်(၉၆)
အပါအဝင် မြေကွက်အမှတ်(၉၅၊ ၉၆၊ ၉၇) မြေ
ကွက်(၃)ကွက်စု ပေါင်း၍ အုတ်ခြံစည်း ရိုး ကာရံ
ထား ပြီး အဆိုပြု မြေကွက်အမှတ်(၉၆) ပေါ်တွင်

( ၃၀၀ိ × ၁၀၀ိ ) အ ဆောက်အဦး ( ၁ ) လုံး နှင့် ( ၇၀ိ × ၄၀ိ ) ရှိတစ်ထပ်အ ဆောက်အဦး ( ၁ ) လုံး စုစု ပေါင်း အ ဆောက်အဦး ( ၂ ) လုံး ဆောက်လုပ်ထား ပြီး စက်များ တပ်ဆင်ထား ပြီး ပုစွန်အ ခြောက်လုပ်ခြင်း ကိုစမ်း သပ်လည်ပတ်လျက် ရှိကြောင်း နှင့်လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန်သင့် လျော်သည်ဟုယူဆပါကြောင်း အကြောင်း ပြန်ကြား လာပါသည်။ ( ပူး တွဲ )။

- ခွင့်ပြုမိန့်ထုတ် ပေး ပြီး ပုစွန် မွေး မြူခြင်း လုပ်ငန်း ( ၁ ) ခုရှိပါသည်။ ယခုအဆိုပြုလုပ်ငန်း အပါအဝင်တင်ပြထား သဲလုပ်ငန်း ( ၂ ) ခုရှိပါသည်။

- ပူး တွဲပါဥပ ဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန် ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစား ခွင့်ပြုပါရန် လျှောက်ထား လာပါသည်။

မြန်မာနိုင်ငံသား များ၏ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့် များ ရရှိရေးအတွက် လျှောက်ထား ချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

— ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ထိုငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

— ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှပြည်ပသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ် (၅၀%) ထိငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှတ်တကယ်အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက်ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

— ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့် အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

— ဥပဒေပုဒ်မ ၁၃ (ဃ) အရသွင်းကုန်အစားထိုးလုပ်ငန်းအဖြစ်အကျိုးအမြတ်နည်းသည့် လုပ်ငန်းအပေါ်သင့်လျော်သောကာလအထိဝင်ငွေခွန်သက်သာခွင့် တောင်းခံခြင်းကို အကျုံးဝင်ခြင်း မရှိဟုသုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံမှုပါက ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်း အတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း တင်သွင်းလာသည့် [illegible]များ အပေါ် အကောက်ခွန်နှင့်အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့်အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၃၇၂၈၉၀။

စာအမှတ်၊ ရက - ၁/မ - သဘောထား/၂၀၀၂( ၂၆၀၀ )
ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ စက်တင်ဘာလ ၃ ရက်

အကြောင်းအရာ။ ။ <u>ကော်မရှင်သို့တင်ပြလာသည့်လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာများပါကိုယ်ပိုင်နိုင်ငံခြားငွေကိစ္စ။</u>

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်ရရှိရန်အတွက်ကုမ္ပဏီများမှလုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာများကို ကော်မရှင်သို့တင်ပြလာပါသည်။ ယင်းအဆိုပြုလွှာများအနက် အချို့မှာလုပ်ငန်းသုံးပစ္စည်းများနှင့်စက်ပစ္စည်းများကိုကုမ္ပဏီ၏ကိုယ်ပိုင်နိုင်ငံခြားငွေဖြင့်ဝယ်ယူ/တင်သွင်းခွင့်ပြုပါရန်ကုမ္ပဏီ၏နိုင်ငံခြားငွေလက်ကျန်စာရင်းများပူးတွဲတင်ပြထားပါသည်။

၂။ သို့ပါ၍ကုမ္ပဏီများမှတင်ပြထားသည့်နိုင်ငံခြားငွေစာရင်းများသည် အဆိုပါကုမ္ပဏီများ၏ " Export Earning " - မှရရှိသောနိုင်ငံခြားငွေဖြစ်ကြောင်း မှန်ကန်မှုရှိ-မရှိကိုစိစစ်၍ ကော်မရှင်သို့ပြန်ကြားပေးပါရန်သက်ဆိုင်ရာအထောက်အထားများပူးတွဲလျက်ဖြင့်နှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ( ကိုယ်စား )
( ဗိုလ်မှူးကြီးလင်းသော်၊ အထူးအရာရှိ )

<u>ဝန်ကြီးရုံး၊</u>
<u>ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။</u>

မိတ္တူ -

- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ် ( MFTB )
- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ် (MICB)
- ရုံးလက်ခံ
- မျှောစာတွဲ

၁ *

ကော်မရှင်ခွင့်ပြုမိန့် လျှောက်ထား ရသော နိုင်ငံခြား ငွေသုံး စွဲမည့်ကုမ္ပဏီများ

| စဉ် | အဆိုပြုလွှာတင်ပြသည့် ကုမ္ပဏီအမည် | ဆောင်ရွက်မည့် လုပ်ငန်း | ဓါရင်းအမှတ် | ဓါရင်းပိုင်ရှင်အမည် | နိုင်ငံခြားငွေဓါရင်း လက်ကျန် / နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁။ | ပြည့်ဖြိုးထွန်းအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် | သစ်အခြေခံတန်ဖိုးမြှင့် ပစ္စည်းထုတ်လုပ်ခြင်း လုပ်ငန်း | 92082 | PYI PHYO TUN INT'L CO. | US $ 737,569.88 (12-7-2002) | MFTB |
| ၂။ | Win & Win Production Co., Ltd. | သစ်အခြေခံစက်မှု လုပ်ငန်း | 95473 | Win & Win Trading Co., Ltd. | 21349.98 (26-7-2002) | MFTB |
| | | | FW-10-052 F | Win & Win Trading Co., Ltd. | 10675.90 (10-6-2002) | MICB |
| | | | FW-10-018H | Win International Co., Ltd. | 50313.94 (15-7-2002) | MICB |
| | | | FZ-10-071 V | Zambu Hlwan Co.Ltd. | 26666.07(12.7.02) | MICB |
| ၃။ | မြန်မာ့အားမာန်ငါး၊ ပုစွန် အစာထုတ်လုပ် ရေးကုမ္ပဏီလီမိတက် | ပုစွန်အစားအစာထုတ် လုပ်ခြင်းနှင့်ပုစွန်မွေး မြူရေးကန်တည် ဆောက် ဆောင်ရွက်ခြင်းလုပ်ငန်း | FS-10-520W | Shwe Ayeyar Co.Ltd. | 331798.83 (9-9-2002) | MICB |

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း - ၃၇၂၈၉၀။

စာအမှတ်၊ ၇က - ၁ / မ - သ သဘောထား / ၂၀၀၂(နဝရော-၀

ရက်စွဲ၊ ၂၀၀၂ ခုနှစ်၊ အောက်တိုဘာလ ၁၇ ရက်

သို့၊

ဗိုလ်ချုပ်တင်ထွဋ်

ဝန်ကြီး

လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ <u>သဘောထား မှတ်ချက်တောင်းခံခြင်းကိစ္စ</u>။

၁။ တိုင်းရင်းသား ပိုင်မြန်မာကုမ္ပဏီများ သည်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီလုပ်ငန်း ဆောင်ရွက်ခွင့်အတွက်အဆိုပြုလွှာများ ကို ကော်မရှင်သို့တင်ပြထားပါသည်။

၂။ အဆိုပါလုပ်ငန်း အဆိုပြုချက်များ ကို ``မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့`` တင်ပြရမည်ဖြစ်ပါသည်။

၃။ (၁၀-၁၀-၂၀၀၂) နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၄/၂၀၀၂) အစည်းအဝေး မှလမ်းညွှန်ချက်အရ ယင်းအဆိုပြုလုပ်ငန်းများ၏ လျှပ်စစ်ဓါတ်အား သုံးစွဲမှုနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၏သဘောထား မှတ်ချက်တောင်းခံရန်လိုအပ်ပါသဖြင့် ကော်မရှင်သို့တင်ပြထားသည့် လုပ်ငန်း အဆိုပြုချက်(၁၅) ခုအပေါ် လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန၏သဘောထား မှတ်ချက်အား ပြန်ကြားပေးပါရန် အဆိုပြုလုပ်ငန်းများ နှင့်စပ်လျဉ်း၍ သတင်းအချက်အလက်များ အား ပူးတွဲပေးပို့လျက်ရှိကြောင်း မေတ္တာရပ်ခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

မိတ္တူ - ၁။ ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း ။
၂။ ရုံးလက်ခံ / မျှောစာတွဲ

ဝင်း / *

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၇၁ / ခွဲ-၃ / ၂၀၀၂ (စီ ၁၀၅၂)
ရက် စွဲ၊ ၂၀၀၂ ခုနှစ် စက်တင်ဘာလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၂ခုနှစ် ဩဂုတ်လ (၁၅)ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၈၁၁/၂၀၀၂ (၂၁၆၆-ဆ)

ဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင် ရန်ကုန်တိုင်း ဒဂုံမြို့သစ်၊အရှေ့ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေကွက်အမှတ်(၉၆)၊ ဧရိယာ (၂. ၄၉၂)ဧကပေါ်တွင် ပုဇွန်အစားအစာ ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန် မြန်မာ့အားမန် ငါး၊ ပုဇွန် အစားအစာထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်မှ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အဆိုပြု မြေကွက်ကိုစီစစ်ရာ မြေကွက်အမှတ် (၉၆)အပါအဝင် မြေကွက်အမှတ်(၉၅၊ ၉၆၊ ၉၇)မြေကွက် (၃)ကွက် စုပေါင်း၍ အုတ်ခြံစည်းရိုး ကာရံထားပြီး အဆိုပြု မြေကွက်အမှတ် (၉၆)ပေါ်တွင် (၃၀၀ပေ×၁၀၀ပေ) အဆောက်အဦး (၁)လုံးနှင့် (၇၀ပေ ×၄၀ပေ) ရှိ တစ်ထပ် အဆောက်အဦး (၁)လုံး၊ စုစုပေါင်း အဆောက်အဦး (၂)လုံး ဆောက်လုပ်ထားရှိပြီး၊ ပုဇွန်အစာထုတ်လုပ်ခြင်းကို စက်များတပ်ဆင် စမ်းသပ်လည်ပတ် ဆောင်ရွက်လျက်ရှိပါကြောင်းနှင့် အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန် သင့်လျော်သည်ဟု ယူဆပါကြောင်းပြန်ကြားအပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(တင့်ဆွေ၊ ဒုတိယဝန်ကြီး)

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ။

-/မာ R 155

၁-၀၅ ပုစွန်အစားအစာထုတ်စက်ရုံမှ ထွက်ရှိလာသော ပုစွန်အစားအစာများကို ပြည်တွင်း၊ ပြည်ပသို့ ရောင်းချရန်ရည်ရွယ်ပါသည်။

## အပိုဒ်-၂။ ဖက်စပ်လုပ်ငန်းကုမ္ပဏီဖွဲ့စည်းတည်ထောင်ခြင်း။

၂-၀၁ ဤစာချုပ်တွင် သဘောတူလက်မှတ်ရေးထိုးကြသည့် အစုရှင်နှစ်ဦးတို့က လိုလိုလားလားဖြင့် အများနှင့်မသက်ဆိုင်သော ဖက်စပ်ကုမ္ပဏီတစ်ခုကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်ရန် သဘောတူကြပါသည်။ အများနှင့်မသက်ဆိုင်သော ဖက်စပ်ကုမ္ပဏီကို **"မြန်မာ့အားမာန် ငါး၊ ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်"** အမည်ဖြင့် တည်ထောင်သွားမည်ဖြစ်ပါသည်။ ဖက်စပ်ကုမ္ပဏီသည် ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ် (အရှေ့ပိုင်း)စက်မှုမြို့၊ မြေကွက်အမှတ်(၉၆)တွင်၊ ပုစွန်အစားအစာထုတ်စက်ရုံကို တည်ထောင်ပြီး ပုစွန်အစာအစာများ ထုတ်လုပ်မည်ဖြစ်ပါသည်။

၂-၀၂ ဖက်စပ်ကုမ္ပဏီ၏ခွင့်ပြုမ,တည်ငွေရင်းမှာ ကျပ်သန်း ၁,၀၀၀ (ကျပ်သန်းတစ်ထောင်တိတိ)ဖြစ်ပြီး၊ အစုရှယ်ယာတစ်စုလျှင် ကျပ် ၁၀,၀၀၀/-(ကျပ်တစ်သောင်းတိတိ) ဖြစ်ပါသည်။

၂-၀၃ ကနဦးထည့်ဝင်မည့် ရင်းနှီးမြှုပ်နှံငွေမှာ ကျပ်သိန်း ၃၆,၀၆၄(ကျပ်သိန်းသုံးသောင်းခြောက်ထောင်ခြောက်ဆယ့်လေးတိတိ)ဖြစ်ပြီး၊ မ,တည်ရင်းနှီးငွေကို "က" အစုရှယ်ယာရှင်က ၁၀% နှင့် "ခ" အစုရှယ်ယာရှင်က ၉၀% ထည့်ဝင်ကြမည်ဖြစ်ပါသည်။

၂-၀၄ ပုစွန်အစားအစာထုတ်စက်ရုံအတွက် လိုအပ်သောအဆောက်အအုံ၊ စက်ပစ္စည်းကရိယာနှင့် ကုန်ကြမ်းပစ္စည်းများကို မ,တည်ရင်းနှီးငွေဖြင့် အချိုးကျထည့်ဝင်၍ ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

၂-၀၅ အကယ်၍လုပ်ငန်းတိုးချဲ့၍ဖြစ်စေ၊ ငွေလိုအပ်လာလျှင်ဖြစ်စေ၊ မ,တည်ရင်းနှီးငွေထပ်မံလိုအပ်ပါက အစုရှယ်ယာရှင်များ နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး ဒါရိုက်တာအဖွဲ့၏သဘောတူညီချက်ဖြင့် တိုးမြှင့်ထည့်ဝင်ရန်သဘောတူကြသည်။

၂-၀၆ အကယ်၍ထည့်ဝင်ငွေဖြင့် မလုံလောက်သဖြင့် ဘဏ်မှငွေချေးယူမည်ဆိုပါက ဒါရိုက်တာအဖွဲ့၏သဘောတူညီချက်ဖြင့်သာ ဘဏ်မှငွေ ချေးယူရပါမည်။

၂-၀၇ ပုစွန်အစားအစာထုတ်စက်ရုံအတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။

၂-၀၈ အစုရှယ်ယာဝင်များ၏ ပေးရန်တာဝန်များသည် ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများပါအတိုင်း အကန့်အသတ်ထားရှိရမည်။

## အပိုဒ်-၃။ အမြတ်ခွဲဝေခြင်း။

၃-၀၁ ဖက်စပ်ကုမ္ပဏီ၏ သင်းလုံးကျွတ်အစည်းအဝေးတွင် အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာအဖွဲ့၏ ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရပါ။

၃-၀၂ ဖက်စပ်ကုမ္ပဏီ၏ အသားတင်အမြတ်ကို ခွဲဝေပေးရာတွင် အစုရှယ်ယာဝင်များထည့်ဝင်ထားသည့် အချိုးအစားအတိုင်း ခွဲဝေယူရပါမည်။

## အပိုဒ်-၄။ လုပ်ငန်းတည်နေရာ

၄-၀၁ ဖက်စပ်ကုမ္ပဏီ၏ တရားဝင်မှတ်ပုံတင်ထားသောနေရာသည် ရန်ကုန်မြို့တွင်ရှိသည်။ ပုစွန်အစားအစာထုတ်စက်ရုံကို ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)စက်မှုမြို့၊ အကွက်အမှတ်(၉၆)တွင် တည်ရှိသည်။ ဒါရိုက်တာအဖွဲ့က သဘောတူသောနေရာများတွင် လုပ်ငန်းများ တည်ထောင်နိုင်ပါသည်။

## အပိုဒ်-၅။ လုပ်ငန်းစီမံခန့်ခွဲမှု

၅-၀၁ ဖက်စပ်ကုမ္ပဏီတွင် ဒါရိုက်တာ(၂)ဦးမှ (၉)ဦးအထိ ဖွဲ့စည်း၍ စီမံခန့်ခွဲမှုကို ဆောင်ရွက်ရမည်။ "ကအစုရှင်" မှ ဒါရိုက်တာ(၁)ဦးနှင့် "ခအစုရှင်"မှ ဒါရိုက်တာ(၁)ဦးဖြင့် ကနဦးဖွဲ့စည်းမည်ဖြစ်ပြီးလိုအပ်ပါက အချိုးကျတိုးချဲ့ဖွဲ့စည်းရမည်။

၅-၀၂ ဒါရိုက်တာအဖွဲ့၏ဥက္ကဋ္ဌကို တစ်နှစ်လျှင်တစ်ကြိမ် ရွေးကောက်တင်မြှောက်ရမည်။ ဥက္ကဋ္ဌသည် ဒါရိုက်တာအဖွဲ့အစည်းအဝေးများတွင် မဲအရေအတွက်တူညီနေလျှင် အဆုံးအဖြတ်မဲ ပေးပိုင်ခွင့်ရှိစေရမည်။

၅-၀၃ ဖက်စပ်ကုမ္ပဏီ၏ နေ့စဉ်လုပ်ငန်းများကို စီမံခန့်ခွဲရန် အုပ်ချုပ်မှုဒါရိုက်တာတစ်ဦးကို "ကအစုရှင်"ဘက်မှ ခန့်ထားရမည်။ အုပ်ချုပ်မှုဒါရိုက်တာ၏ တာဝန်ဝတ္တရားများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးရမည်။

၅-၀၄ ဒါရိုက်တာအဖွဲ့သည် သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းပါ သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ဒါရိုက်တာများသည် အစည်းအဝေးကျင်းပသောအခါ အခကြေးငွေ(ချီးမြှင့်ငွေ) Sitting Fee ကို ခံစားခွင့်ရှိသည်။

၅-၀၅ အောက်ပါအချက်အလက်များအတွက် ဒါရိုက်တာအဖွဲ့ဝင်အားလုံးက သဘောတူမှသာလျှင် လုပ်ကိုင်ဆောင်ရွက်ခွင့်ရှိသည်။

(က) ငွေချေးခြင်း၊
(ခ) လုပ်ငန်းစီမံချက်များချမှတ်ခြင်း၊
(ဂ) နှစ်စဉ် ရ-သုံးမှန်းခြေငွေစာရင်း၊ (မ.တည်အသုံးစရိတ်အပါအဝင်)
(ဃ) သင်းဖွဲ့စည်းမျဉ်းတွင်ပါဝင်သော သတ်မှတ်ချက်များ၊
(င) အုပ်ချုပ်မှုဒါရိုက်တာနှင့် အကြီးတန်းဝန်ထမ်းများ ခန့်အပ်ခြင်းနှင့် ရာထူးမှ ထုတ်ပယ်ခြင်း၊
(စ) အစုထည့်ဝင်ငွေများပြောင်းလဲခြင်း၊

## အပိုဒ်-၆။ စာရင်းစစ်ခန့်အပ်ခြင်း

၆-၀၁ ဖက်စပ်ကုမ္ပဏီ၏စာရင်းစစ်ကို မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၁၄၅ ပါ ပြဋ္ဌာန်းချက်နှင့်အညီ စာရင်းစစ်တစ်ဦး သို့မဟုတ် အဖွဲ့ကို ခန့်ထားရမည်။

## အပိုဒ်–၇။ ဝန်ထမ်းများခန့်ထားခြင်း

၇–၀၁ ဖက်စပ်ကုမ္ပဏီအတွက် ဝန်ထမ်းများခန့်ထားရာတွင် အလုပ်သမားဥပဒေများနှင့် ဆန့်ကျင်ခြင်းမရှိစေဘဲ ဖက်စပ်ကုမ္ပဏီ၏ အလုပ်သမားနှင့်သက်ဆိုင်သည့် ပဋိညာဉ်များနှင့်အညီ ခန့်ထားရမည်။ ထိုသို့ခန့်ထားရာတွင် နိုင်ငံသားများကို ဦးစားပေး၍ ခန့်ထားခြင်းဖြင့် လုပ်ငန်းကို ဆောင်ရွက်ရမည်။

၇–၀၂ ဝန်ထမ်းများ၏လစာကို ဒါရိုက်တာအဖွဲ့က အခါအားလျော်စွာ သတ်မှတ်ပေးရမည်။

၇–၀၃ ဝန်ထမ်းများအတွက် မွမ်းမံသင်တန်းနှင့်အရည်အချင်းမြင့်မားစေသည့် သင်တန်းများ ပြုလုပ်ပေးရမည်။

## အပိုဒ်–၈။ အစုရှင်များ၏တာဝန်ဝတ္တရားများ

၈–၀၁ "ကအစုရှင်"၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) မ,တည်ရင်းနှီးငွေ၏၁၀% ကို ကျခံရမည်။

(ခ) ပုစွန်အစားအစာထုတ်လုပ်ခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိရန် ဆောင်ရွက်ရမည်။

(ဂ) လိုအပ်သော လိုင်စင်၊ ခွင့်ပြုချက်အစရှိသည်များကို သက်ဆိုင်ရာနိုင်ငံတော်အဖွဲ့အစည်းများမှ တောင်းခံရမည်။

(ဃ) ကုန်ကြမ်းရရှိရေးအတွက် အစွမ်းကုန်ကြိုးပမ်းဆောင်ရွက်ရမည်။

(င) ပြည်တွင်းမှ စက်ပစ္စည်းများ ဝယ်ယူရရှိအောင်ဆောင်ရွက်ရမည်။

(စ) စက်ရုံတည်ဆောက်ခြင်း၊ စက်ပစ္စည်းများတပ်ဆင်ခြင်းများကို အချိန်မီပြုလုပ်ရမည်။

(ဆ) ဒါရိုက်တာအဖွဲ့က အခါအားလျော်စွာ ပေးအပ်သောတာဝန်ကို ထမ်းဆောင်ရမည်။

၈–၀၂ "ခအစုရှင်"၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) မ,တည်ရင်းနှီးငွေ၏ ၉၀% ကို ကျခံရမည်။

(ခ) စက်ရုံအတွက် လိုအပ်သောဝန်ထမ်းများနှင့် ကျွမ်းကျင်သူများကို ရှာဖွေစုဆောင်းရမည်။

(ဂ) ပုစွန်အစားအစာထုတ်စက်ရုံအတွက် အဆင့်မြင့်နည်းပညာများ ရရှိစေရန် ဆောင်ရွက်ရမည်။

(ဃ) ပြည်တွင်း၊ ပြည်ပဈေးကွက်သို့ ပုစွန်အစားအစာထုတ်ပစ္စည်းများရောင်းချနိုင်ရန်အတွက် တာဝန်ယူရမည်။

(င) ဘဏ်ချေးငွေရရှိရေးအတွက် စီမံဆောင်ရွက်ရမည်။

(စ) ဒါရိုက်တာအဖွဲ့ကအခါအားလျော်စွာပေးအပ်သောတာဝန်များကို ထမ်းဆောင်ရန်။

## အပိုဒ်-၉။ တာဝန်ယူခြင်းနှင့်ကိုယ်စားပြုခြင်း

၉-၀၁ "ကအစုရှင်"နှင့် "ခအစုရှင်"တို့သည် သက်ဆိုင်ရာဥပဒေများအရ လုပ်ပိုင်ခွင့် အာဏာအပ်နှင်းခံရသော တရားဝင်ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤစာချုပ်ကိုချုပ်ဆိုရန် အခွင့်အာဏာရှိသူ၊ ဘဏ္ဍာငွေတောင့်တင်းသူနှင့် လုပ်ပိုင်ခွင့်ရှိသူအဖြစ် အသီးသီးတင်ပြ၍ တာဝန်ယူကြပါသည်။

## အပိုဒ်-၁၀။ ဘာသာစကား

၁၀-၀၁ ဤသဘောတူစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ မြန်မာဘာသာဖြင့် စာချုပ်သုံးစောင်ရေးသားပြီးလျှင် စာချုပ်နှစ်စုံကို နှစ်ဦးနှစ်ဖက်မှ တစ်စုံစီရယူထား၍ ကျန်သောစာချုပ်တစ်စုံကို သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းထံသို့ပေးပို့၍ စစ်ဆေးခြင်းနှင့် အတည်ပြုချက်များ ရယူရန် ပေးပို့ရမည်။

## အပိုဒ်-၁၁။ အစုထည့်ဝင်ငွေများလွှဲပြောင်းခြင်း

၁၁-၀၁ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျှက် အစုရှယ်ယာများသည် ဒါရိုက်တာအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ဒါရိုက်တာအဖွဲ့သည် သင့်လျော်သောပုဂ္ဂိုလ်များအား သတ်မှတ်ချက်အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၁၁-၀၂ ဤစာချုပ်ပါပြဋ္ဌာန်းချက်များအရမဟုတ်ဘဲ အစုရှယ်ယာများ လွှဲပြောင်းခြင်းပြုလုပ်လာပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ကြိုတင်ခွင့်ပြုချက် ရယူရမည်။

## အပိုဒ်-၁၂။ စာချုပ်သက်တမ်း

၁၂-၀၁ ဤစာချုပ်သက်တမ်းမှာ ကနဦး(၃၀)နှစ်ဖြစ်ပြီး၊ နောက်ထပ်စာချုပ်၏သက်တမ်းကို တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် သုံးကြိမ်တိုးမြှင့်နိုင်သည်။

၁၂-၀၂ ထိုသို့သက်တမ်းတိုးမြှင့်ခြင်းကို ဒါရိုက်တာအဖွဲ့၏သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ကို ရယူပြီးမှသာ အတည်ဖြစ်သည်။

၁၂-၀၃ စာချုပ်ကို သက်တမ်းမကုန်ဆုံးမီ ရပ်စဲလိုပါကလည်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ကြိုတင်ခွင့်ပြုချက်ရယူပြီးမှသာ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေနှင့်အညီ ရပ်စဲဖျက်သိမ်းရမည်။

## အပိုဒ်-၁၃။ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ

၁၃-၀၁ ဖက်စပ်ကုမ္ပဏီသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်အရ ခံစားခွင့်ရှိသည်။

၁၇-၀၂ မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် စာချုပ်ဝင်တစ်ဖက်ဖက်သည် မတားဆီးနိုင်သောဖြစ်ရပ်များကြောင့် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိသဖြင့် အခြားတစ်ဖက်တွင် နစ်နာမှုများပေါ်ပေါက်လျှင် ထိုသူတွင် ထိုနစ်နာမှုအတွက် တာဝန်မရှိစေရ။ လူတို့မစွမ်းဆောင်နိုင်သော၊ မတားဆီးနိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ အစိုးရ၏စစ်တားဆီးမိန့်၊ သပိတ်မှောက်မှု၊ စစ်ဖြစ်မှု၊ ပိတ်ဆို့ထားမှု၊ သပုန်ထမှု၊ အဓိကရုဏ်းဖြစ်မှု၊ ကူးစက်ရောဂါ၊ ကပ်ရောဂါများကျရောက်မှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ လေမုန်တိုင်းကျမှု၊ မြေငလျင်လှုပ်မှုစသော အလားတူထိန်းချုပ်၍မရနိုင်သော ဖြစ်ရပ်များ သို့မဟုတ် မည်သည့်ကြိုးစားအားထုတ်မှုဖြင့် တားဆီး၍မရနိုင်သည့် ဖြစ်ရပ်များဖြစ်သည်။

## အပိုဒ်-၁၈။ အနုညာတစီရင်ဆုံးဖြတ်ခြင်း

၁၈-၀၁ အကယ်၍ စာချုပ်ပါအချက်အလက်များနှင့်ပတ်သက်ပြီး အကောင်အထည်ဖော်ရာ၌ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွါးမှုဖြစ်ပေါ်လာပါက စာချုပ်တွင်လက်မှတ်ရေးထိုးကြသည့် နှစ်ဖက်အဖွဲ့ဝင်များ ဆွေးနွေးညှိနှိုင်းခြင်းဖြင့် အငြင်းပွါးမှုကိုပြေလည်အောင်ဆောင်ရွက်ကြရမည်။

၁၈-၀၂ နှစ်ဦးနှစ်ဖက်အကြား အငြင်းပွါးမှုကို ပြေလည်စွာမဖြေရှင်းနိုင်ပါက ထိုအငြင်းပွါးမှုကို အနုညာတနည်းအားဖြင့် ရန်ကုန်မြို့တွင်ဖြေရှင်းရမည်။ အနုညာတ ခုံသမာဓိလူကြီးတစ်ဦးစီကို တစ်ဖက်ကခန့်ထားပြီး ဖြေရှင်းစေရမည်။ ထိုပြဿနာကို ခုံသမာဓိလူကြီးနှစ်ဦးက ဖြေရှင်းစေကာမှု အငြင်းပွါးမှုမပြီးပြတ်ပါက ခုံသမာဓိလူကြီးနှစ်ဦးက ဒိုင်လူကြီး ( Umpire ) တစ်ဦးကို နှစ်ဦးသဘောတူရွေးချယ်ပြီး ဆုံးဖြတ်စေရမည်။ ထိုဒိုင်လူကြီး၏အဆုံးအဖြတ်သည် အပြီးအပြတ်ဖြစ်စေရမည်။ အနုညာတခုံဖြင့်ဆောင်ရွက်ရာတွင် ၁၉၄၄ ခုနှစ်၊ အနုညာတအက်ဥပဒေ (၁၉၄၄ခုနှစ်၊ မြန်မာအက်ဥပဒေ-၄အရ) ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်ရမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်ကို အမှုရှုံးသည့်ဖက်မှ ပေးချေရမည်။

## အပိုဒ်-၁၉။ လိုက်နာရမည့်ဥပဒေ

၁၉-၀၁ နှစ်ဖက်သောစာချုပ်ဝင်များသည် ၎င်းတို့၏ ဤစာချုပ်ပေါ်၌ ပေါ်ပေါက်လာသည့်တာဝန်ဝတ္တရားများကို ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေ၊ လုပ်ထုံးလုပ်နည်းဥပဒေနှင့် ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်ကြရမည်။

## အပိုဒ်-၂၀။ စာချုပ်ကိုပြန်လည်ညှိနှိုင်းခြင်း

၂၀-၀၁ စာချုပ်တွင်ဖော်ပြပါရှိခြင်းမရှိသောကိစ္စရပ်များကြောင့်ဖြစ်ပေါ်မှုတစ်ရပ်ရပ်သို့မဟုတ်အခြေအနေတစ်ရပ်ရပ်ပေါ်ပေါက်ပြီး၊ စာချုပ်ကိုပြင်ဆင်ရန်လိုအပ်ပါက သက်ဆိုင်သူများသည် လိုအပ်သောညှိနှိုင်းမှုများကိုပြုလုပ်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြအတည်ပြုချက်ရယူပြီး စာချုပ်ကိုပြင်ဆင်ခွင့်ရှိသည်။

## အပိုဒ်–၂၁။ သဘောတူစာချုပ်ရပ်စဲခြင်း

၂၁–၀၁ ဤသဘောတူစာချုပ်သည် အောက်ပါကိစ္စရပ်တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက သဘောတူစာချုပ်ကို ရပ်စဲနိုင်သည်။

(က) ဤသဘောတူစာချုပ်တွင် ဖော်ပြထားသော တာဝန်ဝတ္တရားများကို ပြည့်စုံစွာ တာဝန်မယူနိုင်ခြင်း၊

(ခ) လူတို့မစွမ်းဆောင်နိုင်သော သဘာဝဘေးအန္တရာယ်များ (၆)လကျော်လွန်ပြီး ဆက်တိုက်ဖြစ်ပေါ်ခြင်း၊

(ဂ) ဖက်စပ်ကုမ္ပဏီသည် အရှုံးငွေအမြောက်အမြားဖြစ်ပေါ်လာခြင်းနှင့် အဆက်မပြတ်အရှုံးပေါ်နေခြင်း၊

(ဃ) ဖက်စပ်ကုမ္ပဏီ၏မူလရည်ရွယ်ချက်နှင့် ရည်မှန်းချက်များကို အကောင်အထည်ဖော်ရန် မဆောင်ရွက်နိုင်တော့ခြင်း၊

(င) နှစ်ဖက်အဖွဲ့ဝင်များအချင်းချင်းလုပ်ငန်းရပ်စဲရန်စာဖြင့်ရေးသားသဘောတူခြင်း

၂၁–၀၂ စာချုပ်တွင်လက်မှတ်ရေးထိုးသည့် အဖွဲ့ဝင်များအနက် တစ်ဦးဦးက ဆက်လက်ဆောင်ရွက်ရန် ဆန္ဒမရှိ၍သော်လည်းကောင်း၊ တစ်ဖွဲ့ဖွဲ့မှ ဤစာချုပ်ပါအချက်အလက်များ ဖေါက်ဖျက်ကျူးလွန်ခြင်းကို အခိုင်အမာ သက်သေပြနိုင်လျှင်သော်လည်းကောင်း၊ တရားဝင်စာဖြင့် ရက်ပေါင်း(၉၀)ကြိုတင်အသိပေးပြီး ပယ်ဖျက်နိုင်သည်။

၂၁–၀၃ လုပ်ငန်းရပ်စဲခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ရရှိပြီးနောက် တည်ဆဲတရားဥပဒေများနှင့်အညီ ဆောင်ရွက်မှသာ သက်ရောက်မှုရှိသည်။

## အပိုဒ်–၂၂။ လွှမ်းမိုးသောဥပဒေနှင့် စီရင်ပိုင်ခွင့်အာဏာ

၂၂–၀၁ ဤသဘောတူစာချုပ်ကို လွှမ်းမိုးသောဥပဒေသည် မြန်မာနိုင်ငံ၏ဥပဒေများဖြစ်သည်။ ဤစာချုပ်ပါနှစ်ဦးနှစ်ဖက်စလုံးသည် စီရင်ပိုင်ခွင့်ရှိသော သက်ဆိုင်ရာမြန်မာတရားရုံးများနှင့် အယူခံမှုကိုကြားနာနိုင်သော တရားရုံးအားလုံး၏စီရင်ပိုင်ခွင့်ကို လက်ခံသည်။

## အပိုဒ်–၂၃။ စာချုပ်အတည်ဖြစ်ခြင်း

၂၃–၀၁ ဤသဘောတူစာချုပ်ကို အကောင်အထည်ဖေါ်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

## အပိုဒ်–၂၄။ ပတ်ဝန်းကျင်ကိုကာကွယ်ထိန်းသိမ်းခြင်း

၂၄–၀၁ ဖက်စပ်ကုမ္ပဏီ၏ လုပ်ငန်းများဆောင်ရွက်ရာ၌ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရန် တာဝန်ရှိသည်။ ဖက်စပ်ကုမ္ပဏီသည် လေ၊ ရေ၊ မြေနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုကို ထိန်းသိမ်းရန် လိုအပ်သောဆောင်ရွက်မှုများ၊ စီမံခန့်ခွဲမှုများပြုလုပ်၍ သဘာဝပတ်ဝန်းကျင်ကို ထိန်းသိမ်းကာကွယ်ပေးရမည်။

## အပိုဒ်–၂၅။ ဆက်သွယ်ဆောင်ရွက်မှု

၂၅–၀၁ နို့တစ်စာများ သို့မဟုတ် အခြားအချက်အလက်အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့်ရေးသားပြီး၊ စာတိုက်မှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ၊ တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည်။ ဆက်သွယ်ရန်လိပ်စာမှာ စာချုပ်တွင်ဖော်ပြပါရှိသော လိပ်စာအတိုင်းဖြစ်သည်။

| | |
|---|---|
| (၁) | (၂) |
| ဦးအောင်ဇော် | ဒေါက်တာဇော်ထွန်း |
| အုပ်ချုပ်မှုဒါရိုက်တာ | (၁၂/ကမရ(နိုင်) ၀၀၅၈၅၀) |
| ရွှေရောကုမ္ပဏီလီမိတက် | |
| အမှတ်–၇(F/S 7) | အမှတ်–(၇)၊ အရှေ့ရွှေဂုံတိုင် |
| ရွှေမာလာအိမ်ယာ၊ ဘုရင့်နောင်လမ်းမကြီး | လမ်းမကြီး၊ ဗဟန်းမြို့နယ်၊ |
| ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ | ရန်ကုန်မြို့။ |

၂၅–၀၂ ဤကဲ့သို့စာရွက်စာတမ်းများ ပေးပို့ဆက်သွယ်သည့်အခါတွင် တစ်ဦးကလက်ခံရရှိကြောင်း ပြန်ကြားစာရရှိမှသာ ပေးပို့ခြင်းကို အတည်ပြုနိုင်သည်။ အကယ်၍လိပ်စာပြောင်းလဲပါက စာဖြင့်ရေးသား၍ အကြောင်းကြားရမည်။

## အပိုဒ်–၂၆။ လျှို့ဝှက်ချက်

၂၆–၀၁ စာချုပ်တွင်လက်မှတ်ရေးထိုးကြသူ နှစ်ဦးစလုံးသည် ဖက်စပ်ကုမ္ပဏီကထုတ်လုပ်သည့် ပစ္စည်းများ၏စံညွှန်းများ၊ အချက်အလက်များကို အခြားတတိယအဖွဲ့အစည်း သို့မဟုတ် ပုဂ္ဂိုလ်တစ်ဦးဦးသို့ လွှဲပြောင်းပေးခြင်းမပြုလုပ်ရ။

## အပိုဒ်–၂၇။ လုပ်ငန်းဆောင်ရွက်မှု

၂၇–၀၁ ဖက်စပ်ကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မှု ကိစ္စအဝဝကို ဒါရိုက်တာအဖွဲ့အစည်းအဝေးတွင် ဆွေးနွေးဆုံးဖြတ်ချက်များအရသာ အရေးယူဆောင်ရွက်ရမည်။

## အပိုဒ်–၂၈။ စာရင်းများထားရှိခြင်း

၂၈–၀၁ ဖက်စပ်ကုမ္ပဏီ၏စာရင်းများ၊ မှတ်တမ်းများကို နိုင်ငံတကာအဆင့်မီ စာရင်းထားသိုနည်းများအတိုင်း ထားရှိရမည်။

## အပိုဒ်–၂၉။ အထွေထွေ

၂၉–၀၁ ဤစာချုပ်ပါပြဋ္ဌာန်းချက်များသည် မြေငှားစာချုပ်ပါ ပြဋ္ဌာန်းချက်များနှင့်သော်လည်းကောင်း၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့တွင် ဖော်ပြပါရှိချက်များနှင့်သော်လည်းကောင်း၊ ညီညွတ်မှုမရှိပါက ဤစာချုပ်ပါပြဋ္ဌာန်းချက်များက လွှမ်းမိုးသည်။

၂၉-၀၂ ဤစာချုပ်နှင့်နောက်ဆက်တွဲပုံစံများ၊ စာရင်းဇယားများ၊ မြေပုံများသည် ဤစာချုပ်၏ တစ်ပူးတစ်ပေါင်းတည်း အစိတ်အပိုင်းများဖြစ်စေရမည်။

၂၉-၀၃ ဤစာချုပ်သည်နှစ်ဦးနှစ်ဖက်တို့၏ လုံးလုံးလျားလျားသဘောပေါက်နားလည်မှုများရှိခဲ့လျှင် ဤစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ကျော်လွှားသည်။

အထက်ပါအချက်အလက်များကို နားလည်သဘောပေါက်သိရှိရသည့်အတိုင်း နှစ်ဦးနှစ်ဖက်သက်ဆိုင်သူများသည် အောက်တွင်မိမိတို့၏လက်မှတ်နှင့်တံဆိပ်များကို ရန်ကုန်မြို့၌ ၂၀၀၂ ခုနှစ်၊ လ၊ ရက်နေ့တွင် အတည်ပြုရေးထိုးရိုက်နှိပ်ကြသည်။

| | |
|---|---|
| ဦးအောင်ဇော် | ဒေါက်တာဇော်ထွန်း |
| အုပ်ချုပ်မှုဒါရိုက်တာ | (၁၂/ကမရ(နိုင်)၀၀၅၈၅၀) |
| ရွှေရောကုမ္ပဏီလီမိတက် | |

<u>အသိသက်သေများ</u>

| | |
|---|---|
| ______________________ | ______________________ |
| ______________________ | ______________________ |
| ______________________ | ______________________ |

(မူကြမ်း)

**မြေငှားရမ်းခြင်း သဘောတူစာချုပ်**

ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်(နောင်တွင်"အငှားစာချုပ်"ဟု ခေါ်ဆို ရမည်) ကို၊ ရန်ကုန်မြို့၌၊၂၀၀၂ခုနှစ်၊ ...............လ.........ရက်နေ့တွင်၊ အမှတ်–၄၅၁(အေ)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့နေ ဦးဇော်ထွန်း (၁၂/ကမရ(နိုင်)၀၀၅၈၅၀)၊ ကိုင်ဆောင်သူ (ဤမှနောင်တွင် **"အငှားချထားသူ"** ဟု ရည်ညွှန်းခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် **စာသားများအရသော်**လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၄င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုလွှဲအပ်ခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)က တစ်ဖက်

နှင့်

ပြည်ထောင်စုမြန်မာနိုင်ငံ၏တည်ဆဲဥပဒေများအရမှတ်ပုံတင်ဖွဲ့စည်းတည်ထောင်ထားသည့်ကုမ္ပဏီလီမိတက်တစ်ခုဖြစ်သော **"မြန်မာ့အားမာန် ငါး၊ပုစွန်အစာ ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်"** ဤမှနောင်တွင် **"အငှားချထားခြင်းခံရသူ"** ဟုရည်ညွှန်းခေါ်ဆိုမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင်၊ စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက၊ ၄င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုလွှဲအပ်ခံရသူများပါဝင်သည်ဟုမှတ်ယူရမည်) က ဤအငှားစာချုပ်အားချုပ်ဆိုရန်၊ ကိုယ်စားပြုတာဝန်ပေးအပ်ခြင်းခံရသော၊ အုပ်ချုပ်မှုဒါရိုက်တာ ဦးအောင်ဇော်၊ နိုင်ငံသားမှတ်ပုံတင်အမှတ် (၁၂/မရက(နိုင်)၀၀၆၃၄၈)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ အငှားစာချုပ်ကို ချုပ်ဆိုကြ ပါသည်။

**၁။ ရည်ရွယ်ချက်။**

ဤအငှားစာချုပ်အရ"အငှားချထားခြင်းခံရသူ"သည်ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်(အရှေ့ပိုင်း)စက်မှုမြို့၊ စက်မှုဇုန်၊ မြေကွက်အမှတ်(၉၆)ရှိ အငှားချထားသူများပိုင်စုစုပေါင်းမြေ (၂.၄၉၂)ဧကကို ကနဦး(၁၀)နှစ်ငှားရမ်းပြီး၊ တစ်ကြိမ်လျှင် ငါးနှစ်စီနှင့် နှစ်ကြိမ်သက်တမ်းတိုး၍ ပုစွန်အစားအစာထုတ်စက်ရုံ တည်ဆောက်ရန်အတွက် ပူးတွဲမြေပုံပါ မြေနေရာကို ငှားရမ်းခြင်းဖြစ်ပါသည်။

**၂။ အာမခံခြင်း နှင့် ကိုယ်စားပြုခြင်း။**

အငှားချထားသူသည် ဤမြေကိုမိမိလက်ဝယ်တွင်ရှိပြီး၊ တရားဝင်ပိုင်ဆိုင်မှုရှိကြောင်းအာမခံသည်။ ဤမြေကွက်ကို အငှားချထားခြင်းခံရသူကို အငှားချထားရန် သဘောတူသည်။ ဤအငှားချထားခြင်းခံရသူသည် စာချုပ်ကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အား ပြည့်စုံသော ကုမ္ပဏီလီမိတက်ဖြစ်ပါသည်။ ဤစာချုပ်တွင်လက်မှတ်ရေးထိုးသူနှစ်ဖက်စလုံးသည် ဤသဘောတူစာချုပ်ချုပ်ဆို နိုင်ရန် ဥပဒေအရ လုပ်ပိုင်ခွင့်အာဏာနှင့် ပြည့်စုံသူများဖြစ်ကြောင်း အာမခံသည်။

၃။ ဆောင်ရွက်ရမည့် ဥပဒေသ။

ဤအငှားစာချုပ်ဝင်များသည်၊ ပြည်ထောင်စုမြန်မာနိုင်ငံ၏ တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ အငှားစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန် တာဝန်များကို အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၄။ ငှားရမ်းသည့်အချိန်ကာလ။

ပုစွန်အစားအစာထုတ်စက်ရုံ (Shrimp Feed Mill) တည်ဆောက်ရန်အတွက် ငှားရမ်းမည့်ကာလမှာ ကနဦး (၁၀)နှစ် ဖြစ်ပြီး၊ (၁၀)နှစ်ပြည့်သောအခါတွင်၊ တစ်ကြိမ်လျှင်(၅)နှစ်စီဖြင့်၊ နှစ်ကြိမ် သက်တမ်းတိုးမြှင့်နိုင် သည်။

၅။ ငှားရမ်းခ။

(က) ငှားရမ်းခနှုန်းမှာတစ်လလျှင် ကျပ်၁၅၀,၀၀၀/- (ကျပ်တစ်သိန်းခွဲတိတိ)နှုန်းဖြင့် တစ်နှစ်လျှင် ကျပ်၁,၈၀၀,၀၀၀/- (ကျပ်တစ်ဆယ့်ရှစ်သိန်းတိတိ)ကို အငှားချထားခြင်းခံရသူက အငှားချထားသူသို့ ပေးချေရမည်။

(ခ) နှစ်စဉ် ငှားရမ်းခကို ငှားရမ်းခပေးရန် စေ့ရောက်သောနေ့မှ တစ်လအတွင်း တစ်နှစ်အတွက် ကြိုတင် ပေးချေ သွားရမည်။

(ဂ) ငှားရမ်းခကို ငါးနှစ်တစ်ကြိမ်၊ ပြီးခဲ့သော ငါးနှစ်တာ ကာလ ငှားရမ်းခ နှုန်းထားများ၏ ၁၅% (တစ်ဆယ့်ငါးရာခိုင်နှုန်း) ထက် မပိုစေဘဲ ညှိနှိုင်း ပြင်ဆင်သတ်မှတ်ခွင့်ရှိသည်။

၆။ အငှားစာချုပ်၏ အကျိုးသက်ရောက်မှုနှင့် ကာလ။

(က) ဤအငှားစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ ဤစာချုပ်ပေါ်တွင် လက်မှတ် ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်ရမည်။

(ခ) ငှားရမ်းခြင်းကာလကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပြီး လုပ်ငန်းများ စတင်သည့်ရက် သို့မဟုတ် စာချုပ်လက်မှတ်ရေးထိုးပြီး (၃)လ အနက်၊ စောသည့်ရက်မှ စတင်ရေတွက်ရမည်။

(ဂ) ငှားရမ်းခြင်းကာလကုန်ဆုံးသောနေ့တွင် အဆိုပါမြေကွက်ပေါ်တွင်တည်ရှိသော အဆောက်အအုံနှင့် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများနှင့် ဆက်စပ်လျက်ရှိသော ပစ္စည်းအားလုံးကို အငှားချထားခြင်းခံရသူက ပြောင်းရွှေ့ပိုင်ခွင့်ရှိသည်။

၇။ စာချုပ်သက်တမ်းတိုးခြင်း။

စာချုပ်သက်တမ်းတိုးခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်နိုင်သည်။

(က) အငှားချထားခြင်းခံရသူသည်စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက်ဆက်လက်ငှားရမ်းလိုပါက၊ စာချုပ်သက်တမ်းမကုန်ဆုံးမီ၊ အနည်းဆုံး (၃)လ ကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြ၍ အငှားချထားသူသို့ တင်ပြရမည်။

(ခ) အငှားချထားသူက ဆက်လက်ငှားရမ်းလိုပါက ထပ်မံငှားရမ်းသည့်ကာလအတွက် ငှားရမ်းခနှုန်းထားနှင့် စာချုပ်စည်းကမ်းချက်များကိုနှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီမှုကို ရယူပြီး ဆက်လက်ငှားရမ်းခွင့် ရှိစေရမည်။

၈။ ပြန်လည်လွှဲပြောင်းပေးခြင်း။

စာချုပ်ပါ အငှားသက်တမ်း (သို့မဟုတ်) ထပ်မံတိုးချဲ့ ငှားရမ်းသက်တမ်း ကုန်ဆုံးပြီးနောက် မြေကို ကောင်းမွန်သော အနေအထားအတိုင်း အငှားချထားသူသို့ အဖိုးစားနားမပါရှိပဲ ပြန်လည်လွှဲပြောင်း ပေးရပါမည်။

၉။ **"အငှားချထားခြင်းခံရသူ" ၏ တာဝန်များ။**

"အငှားချထားခြင်းခံရသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) "ငှားရမ်းခ"ကိုအထက်စာအပိုဒ်(၅)တွင် ပါရှိသည့်အတိုင်းပေးချေသွားရန်နှင့် မြေခွန်မှအပ အခြားသော ဝန်ဆောင်မှုပေးသည့် သက်ဆိုင်ရာ တာဝန်ရှိ အာဏာပိုင် အဖွဲ့အစည်းများက ကောက်ခံသည့် အခများအတွက် တာဝန်ယူရန်၊

(ခ) အငှားချထားသည့် မြေကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ပိုင်းကိုသော်လည်းကောင်း၊ နိုင်ငံသားများကိုဖြစ်စေ၊ နိုင်ငံခြားသားကိုဖြစ်စေ၊ ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းပေးခြင်း သို့မဟုတ် လွှဲအပ်ခြင်း၊ ရောင်းချခြင်းတို့ကို မပြုလုပ်ရန်၊

(ဂ) ငှားရမ်းထားသောမြေပေါ်တွင် ပုစွန်အစားအစာထုတ်စက်ရုံ (Shrimp Feed Mill) တည်ထောင်ဆောက်လုပ်ရေးအတွက်သာ အသုံးချရန်၊

(ဃ) ငှားရမ်းမြေပေါ်ရှိ ပုစွန်အစားအစာထုတ်စက်ရုံ (Shrimp Feed Mill) နှင့်သက်ဆိုင်သော အရာများပေါ်တွင် " အငှားချထားခြင်းခံရသူ " ၏ ဆောင်ရွက်ချက်များ အားလုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ဥပဒေများနှင့်အညီဖြစ်ကြောင်း တာဝန်ယူကတိပြုရန်၊

(င) ရေဆိုးများ မရှိစေရေးနှင့် စွန့်ပစ်စနစ် တည်ဆောက် အကောင်အထည်ဖော်ရေးနှင့် မြန်မာ နိုင်ငံတော်၏ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေနှင့် ညွှန်ကြားချက်များနှင့်အညီ၊ ဒေသ အလိုက် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရေးတို့အတွက် အစီအမံများပြုလုပ်ရန်၊

(စ) ဤအငှားသဘောတူစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင် အက်ဥပဒေအရ မှတ်ပုံတင် ရမည်။ အငှားသဘောတူစာချုပ်ကို မှတ်ပုံတင်ခြင်းဖြင့် ပေးဆောင်ရမည့် တံဆိပ်ခေါင်းခွန် ကို အငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။

(ဆ) အငှားချထားသော မြေပေါ်ရှိ အဆောက်အဦးနှင့် လုပ်ငန်းအတွက်လိုအပ်သော အာမခံများ ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊မြန်မာ့အာမခံဥပဒေများနှင့်အညီထားရှိရမည်။

(ဇ) ငှားရမ်းကာလကုန်ဆုံးသောအခါ၊ အဆောက်အဦကို တန်ဖိုးသင့်၍ အငှားချထားသူအား၊ ဦးစားပေး၍ ရောင်းချရန်(သို့) အားလုံးပြောင်းရွှေ့ရန်နှင့် ယင်းသို့ပြောင်းရွှေ့သည့်အခါ ကျန်ရှိသည့်မြေကို မူလငှားရမ်းစဉ်က ကောင်းမွန်သောအခြေအနေအတိုင်း ပြန်လည် ပေးအပ်ရပါမည်။

(ဈ) အငှားချထားသောမြေကို "မြန်မာ့အားမာန် ငါး၊ပုစွန်အစာထုတ်လုပ်ရေးကုမ္ပဏီလီမိတက်" (အငှားချထားခြင်းခံရသူ)က ဝယ်ယူလိုပါက အငှားချထားသူ၏ သဘောတူညီချက်အရ ဝယ်ယူနိုင်ခွင့် ရှိစေရပါမည်။

၁၀။ "အငှားချထားသူ" ၏ တာဝန်များ။

"အငှားချထားသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) "အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့် ငှားရမ်းကာလအတွင်း အငှားချထားသောမြေကိုအေးငြိမ်းချမ်းသာစွာလက်ဝယ်ထားပိုင်ခွင့်ရှိစေရေးအတွက် "အငှားချထားသူ" ကသော်လည်းကောင်း"အငှားစာချုပ်"ကို ကိုယ်စားပြုသည်ဟု တရားဝင်ဖေါ်ထုတ်နိုင်သူကသော်လည်းကောင်း၊ ဤ"အငှားစာချုပ်" အတည်ဖြစ်နေသည့် ကာလအတွင်း၊ ဝင်ရောက်စွက်ဖက်ခြင်း သို့မဟုတ် မည်သည့်ပုံစံ သဘာဝအရမဆို အနှောင့်အယှက်ဖြစ်ခြင်းများ မရှိစေရန်။

(ခ) မြေခွန်ကိုပေးဆောင်ရန်။

(ဂ) သက်ဆိုင်ရာအာဏာပိုင်များထံမှ လိုအပ်သော ခွင့်ပြုချက်များနှင့် ပုစွန်အစားအစာထုတ်စက်ရုံ (Shrimp Feed Mill) တည်ဆောက်ရန် အသုံးချမှုအား အငှားချထားခြင်းခံရသူထံသို့ လွှဲပြောင်း ပေးအပ်ခြင်းအတွက် လိုအပ်သော ခွင့်ပြုချက်များ ရယူပေးရန်။

(ဃ) အငှားချထားခြင်းခံရသူက မြေကိုဝယ်ယူရန်ကမ်းလှမ်းလာပါက အငှားချထားသူ၏ ဆန္ဒအရ အရောင်းချရာတွင် အငှားချထားခြင်းခံရသူကို ဦးစားပေး၍ ဥပဒေနှင့်အညီ ရောင်းချနိုင်ရမည်။

၁၁။ "အငှားစာချုပ်" ရပ်စဲခြင်း။

(က) ဤ"အငှားစာချုပ်"ကို အောက်ဖေါ်ပြပါအခြေအနေအဖြစ်အပျက်တစ်ရပ်ရပ်ဖြစ်ပေါ်ပါက ရပ်စဲနိုင်သည်။

၁။ (က) လုပ်ငန်းတွင်ကြီးမားစွာဆက်တိုက် အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) အငှားသဘောတူစာချုပ်ဝင် တစ်ဖက်ဖက်မှစာချုပ်ပါ တာဝန်များ ဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်း မပြုလုပ်နိုင်သော မလွှဲမရှောင်နိုင်သည့် ဖြစ်ရပ်များ (၆)လ ထက်ပိုမို ဖြစ်ပေါ်လာခြင်း၊

(ဃ) သဘောတူစာချုပ်၏ မူလရည်မှန်းချက်များကို အကောင်အထည် ဖေါ်နိုင်စွမ်း မရှိခြင်း၊

(င) " အငှားချထားသူ " က သော်လည်းကောင်း၊ " အငှားချထားခြင်းခံရသူ " က သော်လည်းကောင်း၊ အငှားစာချုပ်ကို "မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ"အခန်း(၁၁)ပုဒ်မ၃၉နှင့်၄၀တို့အရ ရပ်စဲလိုကြောင်း စာဖြင့် (၃)လ ကြိုတင်၍ အခြားတစ်ဖက်သို့ အကြောင်းကြားလာသောအခါ "မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်" သို့ တင်ပြပြီး ကော်မရှင်၏ သဘောတူညီချက်ရလျှင်လည်းကောင်း၊

(စ) "အငှားချထားခြင်းခံရသူ" သည်ဤ "အငှားစာချုပ်" ချုပ်ဆိုပြီးနောက် ၁၂ (တစ်ဆယ့်နှစ်)လကာလအတွင်းလုပ်ငန်းကိုစတင်မှု မပြုလျှင်သော်လည်းကောင်း၊

(ဆ) "အငှားချထားခြင်းခံရသူ"သည် ဤ "အငှားစာချုပ်" ပါ သဘောတူညီချက်များကို ဆောင်ရွက်ရန်သို့မဟုတ် လိုက်နာရန် ပျက်ကွက်ပြီး ထိုပျက်ကွက်ခြင်းများအတွက် ခိုင်လုံသောအကြောင်းပြချက်များ မပြလျှင်သော်လည်းကောင်း၊

၂။ သို့သော်ငြားလည်း "အငှားချထားခြင်းခံရသူ" သည် ၎င်း၏လုပ်ငန်းများ ဆက်လက်ဆောင်ရွက်နိုင်ရန် နှင့် ပြန်လည်တည်ထောင်မှု ပြုလုပ်နိုင်ရန် အတွက် သဘောတူစာချုပ်ပါ ၎င်း၏အခွင့်အရေးများကို ခြွင်းချက်အဖြစ် သက်သာခွင့် ရရှိစေနိုင်သည်။ ဤအငှားစာချုပ်တွင်ပါရှိသောပြဋ္ဌာန်းသတ်မှတ်ချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူ စာချုပ်ကို ရုပ်သိမ်းလိုပါက၊ ရုပ်သိမ်းလိုကြောင်း၊ ကြောင်းကြားစာကို အခြားတစ်ဖက်ထံသို့ (၃)လ ကြိုတင်၍ပေးပို့ အသိပေးရမည်။

၃။ အငှားစာချုပ်ရုပ်သိမ်းခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

(ခ) အကယ်၍ ရုပ်သိမ်းခြင်း အထမြောက်ပါက "အငှားချထားသူ" သည် "အငှားစာချုပ်" တွင်ပါဝင်သော စည်းကမ်းသတ်မှတ်ချက်များနှင့်အညီ ငှားရမ်းသည့် မြေအပေါ် ပြန်လည်ဝင်ရောက် လက်ရှိထားရှိရန် လုပ်ပိုင်ခွင့်ရှိရမည်။ ထိုအခါတွင် ဤ "အငှားစာချုပ်" သည်ရုပ်ဆိုင်း၍ အဆုံးသတ်သွားရမည်။

## ၁၂။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်။

ဤ "အငှားစာချုပ်" ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည်ဖော်ခြင်းတို့သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအာဏာပိုင်အဖွဲ့အစည်းများထံမှလိုအပ်သည့်သဘောတူညီချက် ခွင့်ပြုချက်နှင့် လုပ်ဆောင်ခွင့်ပြုချက်များ ရရှိပြီးမှအပေါ်တွင် တည်ရှိပါသည်။

## ၁၃။ လွှမ်းမိုးသည့်ဥပဒေ။

ဤ "စာချုပ်"သည်မြန်မာနိုင်ငံတော်ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်းဥပဒေ၊လုပ်ထုံးလုပ်နည်း၊အမိန့်ညွှန်ကြားချက်များနှင့်အညီသာဖြစ်စေရမည်။ ထို့အပြင် စာချုပ်နှင့်စပ်လျဉ်းသော ကိစ္စအရပ်ရပ်တွင် မြန်မာနိုင်ငံတရားရုံးများ၏ စီရင်ပိုင်ခွင့်ကို နာခံရမည်။

၁၄။ မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ။

အကယ်၍ စာချုပ်ဝင်တစ်ဦးဦးက စာချုပ်ပါ တာဝန်များ ဆောင်ရွက်ရန် သို့မဟုတ် အခြားတစ်ဦး၏ ဆောင်ရွက်မှုကို လက်ခံရန် ယာယီအားဖြင့် မစွမ်းဆောင်နိုင်သည့် အခြေအနေကို သက်ရောက်စေသော လူတို့ မလွန်ဆန်နိုင်သည့် သဘာဝဘေးအန္တရာယ်များ သို့မဟုတ် မည်သည့်ဖက်ကမျှ ကြိုးစားအားထုတ် ဆောင်ရွက်မှုဖြင့် တားဆီး မရနိုင်သော ဖြစ်ရပ်များကြောင့် တစ်ဖက်ဖက်မှ စာချုပ်ပါ တာဝန်များကို ထမ်းဆောင်ရန်ပျက်ကွက်ပါက အဆိုပါ မလွဲမရှောင်နိုင်သည့် ဖြစ်ရပ်များ ပေါ်ပေါက်ကြောင်းကို ဖြစ်ပေါ်သည့် အချိန်မှ (၁၄) ရက် အတွင်း အခြားတစ်ဖက်သို့ စာဖြင့် အကြောင်းကြား ရမည်။ အခြားတစ်ဖက်ကလည်း မလွန်ဆန်နိုင်သည့် ဖြစ်ရပ် ပေါ်ပေါက်ကြောင်း လက်ခံပါက စာချုပ် ချုပ်ဆိုသူ နှစ်ဦးနှစ်ဖက်စလုံးတွင်မည်သည့် တာဝန်မျှ မရှိစေရ။ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များပေါ်ပေါက်သည့် ကာလကို စာချုပ်သက်တမ်းကာလမှ ထုတ်နုတ်ရန် သဘောတူကြပါသည်။ မလွန် ဆန်နိုင်သည့် ဖြစ်ရပ်ဆိုသည်မှာ သဘာဝ ဘေးဒုက္ခများ၊ ငလျှင်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်းများ၊ အဓိကရုဏ်းဖြစ်ခြင်း၊ အရပ်ဖက်နှောင့်ယှက်ဖျက်ဆီးခြင်း၊ ပေါက်ကွဲမှုဖြစ်ခြင်း၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းနှင့် အခြားအလားတူ အကြောင်းများဖြစ်ပြီး၊ စာချုပ်ဝင်၏ထိုက်သင့်သောဂရုပြုမှု၊ ဖွဲ့၊ လုံ့လတို့နှင့် ထိန်းချုပ်၍မရပဲ ကျော်လွှားရန်မတတ်စွမ်းနိုင်သော ဖြစ်ရပ်များကို ဆိုလိုပါသည်။

၁၅။ အနုညာတ စီရင်ဆုံးဖြတ်ခြင်း။

အကယ်၍ ဤအငှား သဘောတူစာချုပ်ပါ အချက်အလက်များနှင့် ပတ်သက်ပြီး၊ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင်ဖြစ်စေ၊ အဓိပ္ပါယ်လွဲမှားမှုကြောင့်ဖြစ်စေ၊ အငြင်းပွါးမှုများ ဖြစ်ပေါ်လာပါက သဘောတူ စာချုပ်တွင် လက်မှတ် ရေးထိုးထားသည့် နှစ်ဦးနှစ်ဖက်စလုံးမှ ညှိနှိုင်း ဆွေးနွေးခြင်းဖြင့် အငြင်းပွါးမှုများကိုပြေလည်ငြိမ်းအေးစေနိုင်သည်။ နှစ်ဦးနှစ်ဖက်အကျေအလည် ညှိနှိုင်းဆွေးနွေး၍ မရရှိပါက မြန်မာနိုင်ငံအတွင်း၌ နှစ်ဦးနှစ်ဖက်အတွက် ခုံသမာဓိ လူကြီးတစ်ဦးစီခန့်ထားပြီး ညှိနှိုင်းဆွေးနွေးနိုင်ခွင့်ရှိသည်။နှစ်ဦးနှစ်ဖက်မှတင်မြှောက်ထားသောခုံသမာဓိလူကြီးများမှအငြင်းပွါးမှုများကို ပြေလည်အောင် ဖြေရှင်းပေးနိုင်ခြင်း မရှိခဲ့ပါက အဆိုပါ ခုံသမာဓိလူကြီးများ သဘောတူသော ဒိုင်လူကြီး၏ အဆုံးအဖြတ်ကို နှစ်ဖက်စလုံးမှ လက်ခံကြရမည်။ ၎င်းခုံသမာဓိလူကြီးများ၏ အဆုံးအဖြတ်မှာ ၁၉၄၄ ခုနှစ်၊ အနုညာတစီရင်ဆုံးဖြတ်ခြင်း၊ အက်ဥပဒေ(၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံ အက်ဥပဒေ အမှတ် ၄) အရဖြစ်စေ၊ ဖြစ်ရပါမည်။ ခုံသမာဓိအဖွဲ့၏ ဖြေရှင်းဆုံးဖြတ်ရန်နေရာမှာ ရန်ကုန်မြို့၊ပြည်ထောင်စုမြန်မာနိုင်ငံတွင်ဖြစ်ရပါမည်။ ခုံသမာဓိရုံး၏ ကုန်ကျစရိတ်များကို၊ အမှုရှုံးသည့်ဘက်မှ ကျခံပေးဆောင်ရမည်။

## ၁၆။ အကြောင်းကြားစာ။

ဤ စာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများအား အောက်ဖော်ပြပါ လိပ်စာများအတိုင်း မြန်မာဘာသာဖြင့် ရေးသားပြီးလျှင် စာတိုက်မှ မှတ်ပုံတင် ချောစာဖြင့် ဖြစ်စေ သို့မဟုတ် တဲလက်စ်ဖြင့်ဖြစ်စေ၊ ဖက်စ်ဖြင့်ဖြစ်စေ၊ နှစ်ဦးနှစ်ဖက် ဆက်သွယ်ပေးပို့ရမည်။ ထိုသို့ ဆက်သွယ်ပေးပို့ရာတွင် သဘောတူစာချုပ် ချုပ်ဆိုစဉ်က လိပ်စာအတိုင်းသော်လည်းကောင်း၊ တစ်ဖက်မှအကြောင်းကြားလာသည့်အခြားလိပ်စာဖြင့်သော်လည်းကောင်း၊ဆက်သွယ်ပေးပို့ရမည်။

လိပ်စာများမှာ –

(က)"အငှားချထားသူ" (၁)အမည် – (၁) ဦးဇော်ထွန်း (၁၂/ကမရ(နိုင်) ၀၀၅၈၅၁)
(၂) လိပ်စာ – အမှတ်–၄၅၁(အေ)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။
(၃)ဖုံးအမှတ် –
(၄)ဖက်စ်နံပါတ် –

(ခ)"အငှားချထားခြင်းခံရသူ"(၁)အမည် – မြန်မာ့အားမာန် ငါး၊ ပုစွန်အစာထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်
(၂)လိပ်စာ – အမှတ်(၇)၊ အရှေ့ရွှေဂုံတိုင်လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။
(၃)ဖုံးအမှတ် –
(၄)ဖက်စ်နံပါတ် –

ယခုကဲ့သို့ စာရွက်စာတမ်းများပေးပို့ဆက်သွယ်သည့်အခါတွင် ပေးပို့ခြင်းကို လက်ခံရယူသည့်ဖက်မှ လက်ခံရရှိပြီးဖြစ်ကြောင်း အကြောင်းပြန်ကြားစာ ရရှိပြီးမှသာလျှင် ပေးပို့ခြင်း ကိစ္စ ပြီးမြောက်ပြီး ဖြစ်သည်ဟု အတည်ပြုနိုင်သည်။ အကယ်၍ တစ်ဖက်ဖက်မှ လိပ်စာ အပြောင်းအလဲ ရှိပါက စာဖြင့် ရေးသားပြီး အကြောင်းကြားစာကို ပေးပို့ရမည်။

## ၁၇။ ဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများ။

ဤ "ငှားရမ်း သဘောတူကာလ" အတွင်း ငှားရမ်းမှု ပြုလုပ်ထားသော မြေနေရာတွင် မမျှော်မှန်းဘဲ၊ ငှားရမ်းမြေမှထွက်ပေါ် ရရှိလာသောဓါတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်နှင့်သာ သက်ဆိုင်စေရမည်ဖြစ်ပြီး "အငှားချထားသူများ"သည်၊ သက်ဆိုင်ရာ မြန်မာနိုင်ငံတော်အစိုးရ အဖွဲ့အစည်းများသို့ အကြောင်းကြား တင်ပြလွှဲပြောင်းပေးရမည်ဖြစ်သည်။

## ၁၈။ စာချုပ်ကို ပြန်လည်ညှိနှိုင်းခြင်း။

"အငှားစာချုပ်"တွင် မဖော်ပြမိခဲ့သော အချက်အလက် **သို့မဟုတ်** အခြေအနေ **တစ်ရပ်**ပေါ်ပေါက်ပြီး၊ စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦး နှစ်ဖက်တို့ ညှိနှိုင်းကြပြီး၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ကို ရယူလျက် စာချုပ်၏ အချက်အလက်နှင့် သတ်မှတ်ချက်များကို လိုအပ်ချက်အရ ပြင်ဆင် ညှိနှိုင်းကြရမည်။

## ၁၉။ စာချုပ်၏ တစ်စုတစ်ပိုင်းတည်း အစိတ်အပိုင်း။

ဤ "အငှားစာချုပ်" သည် ယင်း၏ နောက်ဆက်တွဲ များနှင့် မြေပုံများသည် ဤစာချုပ်၏ တစ်စုတစ်ပေါင်းတည်း အစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

## ၂၀။ ပတ်ဝန်းကျင်ကို ကာကွယ်ထိန်းသိမ်းခြင်း။

အငှားချထား ခံရသူသည် လုပ်ငန်းများ ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရန် တာဝန်ရှိသည်။ "အငှားချထားခြင်းခံရသူ" သည် လေ၊ရေ၊မြေနှင့် ပတ်ဝန်းကျင် ကို ထိန်းသိမ်း၍ လိုအပ်သော ဆောင်ရွက်မှုများ၊ စီမံခန့်ခွဲမှုများ ပြုလုပ်၍ သဘာဝပတ်ဝန်းကျင်ကို အကာအကွယ်ပေးရမည်။ ၄င်းတို့၏ အစိတ်အပိုင်းပေါ်တွင် ဆောင်ရွက်မှု၊ လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့်၊ မည်သည့်လျော်ကြေး တောင်းဆိုမှုမျိုးကိုမဆို "အငှားချထားသူ" အပေါ်တွင် တာဝန်မရှိစေရ ။ "အငှားချထားခံရသူ" ကသာ ကျခံပေးချေရမည်။

ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ

၂၀၀၁ ခုနှစ်၊ မတ် လ၊ [illegible] ရက်

လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်းအတိုင်း အသုံးပြုခွင့် အမိန့်စာ

အမှတ်စဉ်အမှတ် ၄/လနခ (ကျောက်တန်း) ၂၀၀၁

ရန်ကုန်တိုင်း၊ အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီသည် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ရုံး၏ ၂၂-၁၁-၉၀ ရက်စွဲပါ စာအမှတ် ၁၀/ဖြ၁၀-၁၀/ အ ဖ ၅၊ ဖြင့် အပ်နှင်းထားသည့် လုပ်ပိုင်ခွင့်ကို သုံးစွဲလျက် အောက်ပါဇယားတွင် ဖော်ပြထားသော လယ်ယာမြေကို နောက်ကျောပါ စည်းကမ်းချက်များနှင့်အညီ ၁၉၅၃ ခုနှစ်၊ လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေး အက်ဥပဒေပုဒ်မ ၃၉ အရ ၄၇ ငပုဇွန်မွေးမြူရေး

မြေအဖြစ် အသုံးချရန်

ဒေါ်ရေွဧရာကမ္ဘာဗီလီမိကက် အား ခွင့်ပြုလိုက်သည် -

| မြို့နယ် | ရပ်ကွက်/ကျေးရွာ | ကွင်း | | ဦးပိုင် | ဧရိယာ | | နယ်နိမိတ် |
|---|---|---|---|---|---|---|---|
| | | အမှတ် | အမည် | အမှတ် | ဧက | ဒသမ | |
| ကျောက်တန်း | ဗရှောင်း | ၅၄၉-ဘီ | ငှက်ကွင်း | ၁၁ | ၂၉၃ | ၁၀ | သက်သေခံမြေပုံအတိုင်း |
| | | | | ၁၂/၁ | | | |
| | | | | ၁၂/၂ | | | |
| | | | | ၁၂/၃ | | | |
| | | | | ၁၂/၄ | | | |
| | | | | ၁၃ | | | |
| | | | | ၁၄ | | | |
| | | | | ၁၅ | | | |
| | | | | ၁၀ | | | |

စာအမှတ် ၂၈၃/၃-၃/တယက

ရက်စွဲ၊ ၂၀၀၁ ခုနှစ်၊ မတ် လ၊ [illegible] ရက်။

ဖြန့်ဝေခြင်း

မြို့နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ကျောက်တန်း မြို့နယ်

မြို့နယ်မြေစာရင်းဦးစီးဌာန ကျောက်တန်း မြို့နယ်

ရပ်ကွက်/ကျေးရွာ အုပ်စု အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဗရှောင်း ၀ ရပ်ကွက်/ကျေးရွာ

မိတ္တူ/ဖော်ပြ ဒေါ်ရေွဧရာကမ္ဘာဗီလီမိကက်

ခွင့်ပြုခံရသူက အမိန့်စာပါ စည်းကမ်းချက်များကို လိုက်နာပါမည်ဟု ဝန်ခံကတိပြုလက်မှတ်ရေးထိုးပြီး ဖြန့်ဝေရန်။

မိတ္တူ

ကာကွယ်ရေးဝန်ကြီးဌာန၊ တပ်မတော်ထောက်လှမ်းရေး ညွှန်ကြားရေးမှူး ရုံး

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာန

ခရိုင်အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရန်ကုန်အရှေ့ပိုင်း

တိုင်းမြေစာရင်းဦးစီးဌာန၊ ရန်ကုန်တိုင်း။

တိုင်းငါးလုပ်ငန်းဦးစီးဌာန၊ ရန်ကုန်တိုင်း

SPECIAL ADHESIVE LABEL
ငါးရာကျပ်
FIVE HUNDRED KYATS
500

SPECIAL ADHESIVE LABEL
ငါးဆယ်ကျပ်
FIFTY KYATS
50

# မြေငှားစာချုပ်

## မူရင်း

29 JUL 2002

၂၀၀၂ ခုနှစ်၊ (မြေငှား) အမှတ်စဉ် အမှတ် ဒဂုံမြို့သစ်(မြောက်ပိုင်း)/၇/၂၀၀၂ အရ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့် စကားရပ်တွင် မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

**စာချုပ်စာတမ်းမှတ်ပုံတင်ခွင့်** (stamp)

နှင့် ရန်ကုန် မြို့နေ၊ ဦး စိန်မောင် ၏၊ သား/သမီး ဖြစ်သော ဦး ဇော်ထွန်း အမျိုးသားမှတ်ပုံတင်အမှတ် KMYT ၀၀၂၁၇၄ (နောက်တွင် "အငှားစာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃၆၄ ခုနှစ်၊ ဝါဆို လဆန်း/လပြည့်ကျော် ၃ ရက်နေ့၊ ၂၀၀၂ ခုနှစ်၊ ( ဇူလိုင် လ ၂၉ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်-ချုပ်ဆိုကြသည်။

အငှားစာချုပ်ရသူက-နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်ရိုင်း (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်-ချုပ်ဆိုသည့် ၂၉-၇-၂၀၀၂ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြား အတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၁၇ ခုနှစ် ဇူလိုင် လ ၂၈ ရက်နေ့၌၊ ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၂၇၁၀၀/- ပြား - ( နှစ်သောင်းခုနစ်ထောင့်တစ်ရာ ကျပ် ) တိတိကို ဇန်နဝါရီလ ၁-ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇန်နဝါရီလ ၁-ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁-ရက်နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁-ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇူလိုင်လ ၁-ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁-ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁-ရက်နေ့တွင်လည်းကောင်း ကြိုတင် ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယ တစ်ဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက် အပိုဒ် ၃-တွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအားသတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင် ရမည်။

စာချုပ်စာတမ်းများ စိစစ်ခန့်ခွဲရေး
ညွှန်ကြားချက်အမှတ် ၁၊ ၉၇ ကို
လိုက်နာရမည်။

## ရန်ကုန်မြို့တော်

အိုးအိမ် - ပုံစံ

အတ်စ် - ၂၂

ဒဂုံမြို့သစ်အရှေ့ပိုင်း ------------------------- မြို့နယ်၊ လူနေရပ်ကွက်အမှတ် စက်မှု ------------------

မြေတိုင်းရပ်ကွက်အမှတ် ------ ၁၁၃ ------------------ မှ မြေကွက်အမှတ် ၉၆ ------

၏ မြေပုံ-

၁-လက်မလျှင် ၃၀၀ ပေစကေး




### ရည်ညွှန်းချက်

------------ ဧရိယာ

စတုရန်းပေ ----၁၀၈၅၇၀----

ဧက ----၂.၄၉၂----

မြေတိုင်း (၄) မြေတိုင်း (၃) မြေတိုင်း (၂) ဦးစီးအရာရှိ ၁၈ | ၇ | ၁၀၁၄

မြေတိုင်းဌာနခွဲ

မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန



BACK SIDE ELEVATION

| | | |
|---|---|---|
| OWNER | | |
| PROJECT | | |
| | BLOCK NO | |
| | LOT NO | |
| | TOWNSHIP | |
| SUBJECT | Elevation | |
| SCALE | 3" = 80'_0" | SHEET NO |
| DATE | | 2 |

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ........ ၂၂၆ ........ /၁၉၉၉ - ၂၀၀၀

မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ........ ရွှေ ဧရာ ကုမ္ပဏီ လီမိတက် ........ အား ပေးရန်တာဝန်ကန့်သတ်ထားသောလီမိတက် ကုမ္ပဏီအဖြစ် ၁၉၉၉ ခုနှစ်၊ ........ ဇွန် ........ လ ...... ၁ ...... ရက်နေ့တွင်မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ခေါင်းစဉ်မှတ်ပုံတင်/ကုမ္ပဏီမှတ်ပုံတင်ရုံး

( သိင်္ဂီတင် )
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင် ။

* * *

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND
ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

No. ........ 226 ........ of 1999 - 2000

*I here by certify that* SHWE AYEYAR COMPANY LIMITED ........ *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* ........ FIRST ........ *day of* ........ JUNE ........ *one thousand nine hundred and* NINETY NINE

စာတိုက်ရုံးအသုံးပြုရုံတည်ရှိရာအရပ်သည်၊
စက်မှုလက်မှုဇုန်တွင်ဖြစ်စေ၊ ရမည် (သို့မဟုတ်)
လုပ်ငန်းရပ်ကွက်နှင့်ကင်းလွတ်ရာအရပ်၌
ဖြစ်စေရမည်။

( THEINGI TIN )
Registrar of Joint Stock Companies
Companies Registration Office

* ဝင်း/၄၆၉၉